



မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

# ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ် မနသ – ၁၆၈ / ၉၈ ၁၉၉၈ ခုနှစ်၊ စက်တင်ဘာလ ၄ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏အမည် ဦးကိုချင်း

(ခ) အဘအမည် ဦးလေးဝှး

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ၁၂/မရက(နိုင်)၁၂၂၇၂၆

(ဃ) နေရပ်လိပ်စာ အမှတ်(၃၃)(ဘီ)၊ ရတနာလမ်း၊ ၇–မိုင်၊ မရမ်းကုန်းမြို့နယ်၊ ရန်ကုန်တိုင်း

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့် အဖွဲ့အစည်း မြန်မာ့ရောင်နီဦး ကုမ္ပဏီလီမိတက် (Myanmar Yaung Ni Oo Co., Ltd.)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား စိုက်ပျိုးရေး ။ တိရစ္ဆာန် မွေးမြူရေး နှင့်ငါး မွေးမြူရေး

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ) ငါးဆူတောင်ကျေးရွာ၊ လှည်းကူးမြို့နယ်၊ ရန်ကုန်တိုင်း

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) (၉၉.၀၇) သန်း (ကျပ်ကိုးဆယ့်ကိုးသန်း နှင့်ခုနှစ်သောင်း တိတိ)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
အမိန့် ကြော်ငြာစာအမှတ်၊ ၆၂/၉၈ (မနသ)
ရန်ကုန်မြို့၊ ၁၃၆၀ ပြည့်နှစ်၊ တော်သလင်း လဆန်း ၁၄ ရက်။
(၁၉၉၈ ခုနှစ်၊ စက်တင်ဘာလ ၄ ရက်)

၁။ မြန်မာ ကုမ္ပဏီ ဖြစ်သော မြန်မာရောင်နီဦး ကုမ္ပဏီ လီမိတက် (Myanmar Yaung Ni Oo Co., Ltd.) သည် မွေးမြူရေး နှင့် ရေလုပ်ငန်း ဝန်ကြီးဌာန၊ မွေးမြူရေး အစားအစာ နှင့် နို့ထွက်ပစ္စည်းလုပ်ငန်း ပိုင် ရန်ကုန်တိုင်း၊ လှည်းကူးမြို့နယ်၊ ငါးဆူတောင်ကျေးရွာရှိမြေ (၁၁၃၃.၈၂)ဧကကို ကနဦး နှစ်(၂၀) နှင့် နောက်ထပ် (၅)နှစ် (၂) ကြိမ် ငှါးရမ်း၍ စိုက်ပျိုးရေး၊ တိရစ္ဆာန်မွေးမြူရေး နှင့် ငါးမွေးမြူရေးလုပ်ငန်းများကို မြန်မာ နိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြု တင်ပြချက်အား (၃၁-၇-၉၈) နေ့တွင်ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၃/၉၈) ကြိမ်မြောက် အစည်းအဝေး သို့ တင်ပြခဲ့ရာ ကော်မရှင်မှ မူအားဖြင့် သဘောတူညီခဲ့ပြီး၊ အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ချက် နှင့်အညီ (၂၀-၈-၉၈) နေ့တွင် ကျင်းပ ပြုလုပ်သည့် ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့၏ (၂၈/၉၈) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ အစည်းအဝေးမှ သဘောတူကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် မြန်မာရောင်နီဦး ကုမ္ပဏီ လီမိတက် (Myanmar Yaung Ni Oo Co., Ltd.)အား စိုက်ပျိုးရေး၊ တိရစ္ဆာန်မွေးမြူရေး နှင့် ငါးမွေးမြူရေးလုပ်ငန်းများ ဆောင်ရွက်နိုင်ရန် အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ-၁၆၈/၉၈ ကို ထုတ်ပေးလိုက်သည်။

၂။ မြန်မာရောင်နီဦး ကုမ္ပဏီ လီမိတက် (Myanmar Yaung Ni Oo Co., Ltd.) အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ကုန်ထုတ်လုပ်မှု လုပ်ငန်းစတင်သော နှစ်အပါအဝင် တစ်ဆက်တည်း (၃) နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် နှင့် ဥပဒေ ပုဒ်မ ၁၃ ပါ ပြဋ္ဌာန်းချက်များ နှင့် အညီ အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့် ကြော်ငြာစာကို ထုတ်ပြန်လိုက်သည်။

(က) ဥပဒေ ပုဒ်မ ၁၃(က) အရ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုတွင် ပါဝင်သော နိုင်ငံခြားငွေ ပမာဏအပေါ် မူတည်၍ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလအတွင်း နိုင်ငံခြားငွေဖြင့် ရင်းနှီးမြှုပ်နှံသည့် ပမာဏကို ဖော်ပြလျက် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေပေါ် မူတည်၍ ဤကော်မရှင်သို့ လျှောက်ထားရမည်။

(ခ) ဥပဒေ ပုဒ်မ ၁၃(ခ) အရ လုပ်ငန်းက နိုင်ငံခြားသို့ တင်ပို့ရောင်းချခြင်းမှ နိုင်ငံခြားငွေဖြင့် ရရှိသည့် အမြတ်ငွေအပေါ်တွင် (၅၀) ရာခိုင်နှုန်းအထိ ကာလအကန့်အသတ်ဖြင့် ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် (၃) နှစ်ခံစားပြီးနောက် လုပ်ငန်း၏ အမှန်တကယ် အကောင်အထည် ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(ဂ) ဥပဒေ ပုဒ်မ ၁၃(ဂ) အရ ထုတ်လုပ်မှု လုပ်ငန်းကြောင့် သတ်မှတ်သည့် နှုန်းအထိ ပြည်တွင်း ပြည်ပ ဝင်ငွေတိုးတက်မှု ရှိပါက သတ်မှတ်ချက် နှင့် အညီ ဝင်ငွေခွန် သက်သာခွင့်

ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီးသည့်အခါ လုပ်ငန်း အကောင်အထည်ဖော် ဆောင်ရွက်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေ ပုဒ်မ ၁၃(စ) အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့် ရန်ပုံငွေထား၍ တစ်နှစ်အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ်တွင် ဝင်ငွေခွန် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှုပြုသည့်အခါ လုပ်ငန်း အမှန်တကယ် အကောင်အထည် ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေ ပုဒ်မ ၁၃(ဆ) အရ လုပ်ငန်းသုံး မတည်ပစ္စည်းများ အပေါ် တန်ဖိုးလျော့ငွေ ကို သတ်မှတ်သည့် နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နှုတ်ပယ်ခွင့် နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့ နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(စ) ဥပဒေ ပုဒ်မ ၁၃(ဈ) အရ ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလအတွင်း ပြည်တွင်း၌ မရရှိနိုင်သည့် အမှန်တကယ် လိုအပ်၍ ပြည်ပမှတင်သွင်းသော စက်ပစ္စည်း၊ စက်အရန်ပစ္စည်း၊ စက်ကိရိယာ အစိတ်အပိုင်း၊ လုပ်ငန်းသုံး ပစ္စည်းများအပေါ် အကောက်ခွန် နှင့် အခြား ပြည်တွင်း အခွန် အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

(ဆ) ဥပဒေ ပုဒ်မ ၁၃(ဈ) အရ သတ်မှတ်ထားသည့် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလကုန်ဆုံး၍ ပထမ (၃) နှစ်အတွက် ကုန်ထုတ်လုပ်ရန် ပြည်ပမှ တင်သွင်းသည့် ကုန်ကြမ်းများ၊ လုပ်ငန်းသုံး ပစ္စည်းများ အပေါ်တွင် အကောက်ခွန် နှင့် အခြား ပြည်တွင်း အခွန်အကောက်များကို ကင်းလွတ်ခွင့် ပြုသည်။

(ဇ) ဥပဒေ ပုဒ်မ ၁၃(ည) အရ ထုတ်လုပ်မည့် ကုန်ပစ္စည်းများပြည်ပသို့ တင်ပို့ရောင်းချမှု အပေါ် ကုန်သွယ် လုပ်ငန်းခွန် ကင်းလွတ်ခွင့်ပြုသည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၃(ဇ) နှင့် (ဈ) အရ ပြည်ပမှ တင်သွင်းသည့် စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများ နှင့် ပတ်သက်၍ အောက်ပါ အတိုင်း လိုက်နာ ဆောင်ရွက်ရမည်။

(က) နိုင်ငံခြားငွေ ရရှိပုံနည်းလမ်း (Source of Payments for Import) ဥပမာ – ပြည်ပတင်ပို့မှု မှ ဝင်ငွေ၊ ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည် ဝယ်ယူသည့်စံနစ် (Buy-back System)၊ ရွှေ့ဆိုင်းငွေပေးချေစနစ် (Deferred Payment System)စသည်တို့ကို ဖော်ပြရန်။

(ခ) တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရန်။

(ဂ) စစ်ဆေးရေး ကိုယ်စားလှယ်၏ စစ်ဆေးပြီးကြောင်း အထောက်အထား (Inspection Certificate) ဖြင့် တင်သွင်းမည့် ပစ္စည်းအမျိုးအစား စာရင်း (Invoice and Packing List)

များကို နိုင်ငံခြား မတည်ငွေရင်း တန်ဖိုး သတ်မှတ်ရေးအဖွဲ့ထံသို့ တင်ပြ၍ ထောက်ခံချက် ရယူရန်။

၄။ မြန်မာရောင်နီဦး ကုမ္ပဏီ လီမိတက် (Myanmar Yaung Ni Oo Co., Ltd.)သည် လုပ်ငန်းအတွက် ပြည်ပမှ စက်ပစ္စည်းများ၊ စက်အရန် ပစ္စည်းများ၊ လုပ်ငန်းသုံး ပစ္စည်းများနှင့် ကုန်ကြမ်းများကို ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည် ဝယ်ယူသည့် စံနစ် (Buy-back System)၊ ရွှေ့ဆိုင်း ငွေပေးချေစံနစ် (Deferred Payment System) စသည်တို့ဖြင့် ဝယ်ယူတင်သွင်းပြီး၊ ပြန်လည် ပေးဆပ်သည့်အခါ အဆိုပြု လုပ်ငန်းမှ ရရှိသည့် တရားဝင် နိုင်ငံခြားငွေ ဖြင့်သာ ပေးဆပ်ရမည်။

၅။ အဆိုပြုလုပ်ငန်းအတွက် ပြည်ပမှ စက်ပစ္စည်းများ၊ စက်အရန် ပစ္စည်းများ၊ လုပ်ငန်းသုံး ပစ္စည်းများနှင့် ကုန်ကြမ်းများကို ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည် ဝယ်ယူသည့်စံနစ် (Buy-back System)၊ ရွှေ့ဆိုင်း ငွေပေးချေစံနစ် (Deferred Payment System) စသည်တို့ဖြင့် ရယူဆောင်ရွက် ခြင်းသည် နိုင်ငံတော်နှင့် သက်ဆိုင်ခြင်း မရှိပဲ ငွေချေးသူ၏ တာဝန်သာ ဖြစ်စေရမည်။

၆။ မြန်မာရောင်နီဦး ကုမ္ပဏီ လီမိတက် (Myanmar Yaung Ni Oo Co., Ltd.)သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်း ဆောင်ရွက် ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် ထုတ်လုပ်မှု နှင့် ပြည်ပတင်ပို့မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ အဖြစ် ထားရှိဆောင်ရွက် အကောင် အထည် ဖော်ရမည်။

၇။ အဆိုပြုလုပ်ငန်းကို ဆောင်ရွက်နိုင်ရန် အတွက် မွေးမြူရေး နှင့် ရေလုပ်ငန်း ဝန်ကြီးဌာန၊ မွေးမြူရေး အစားအစာ နှင့် နို့ထွက်ပစ္စည်းလုပ်ငန်း နှင့် မြန်မာရောင်နီဦး ကုမ္ပဏီ လီမိတက် (Myanmar Yaung Ni Oo Co., Ltd.) တို့ ချုပ်ဆိုမည့် ငှါးရမ်းခြင်း သဘောတူ စာချုပ်ကို လက်မှတ် ရေးထိုးပြီးသည့်အခါ ယင်းသဘောတူစာချုပ် မိတ္တူ (၅)စောင်ကို ဤ ကော်မရှင်သို့ မပျက်မကွက် ပေးပို့ တင်ပြရမည်။

၈။ အဆိုပြု လုပ်ငန်း၏ မြေငှါး သက်တမ်းမှာ အငှါးစာချုပ်ကို နှစ်ဦးနှစ်ဖက် လက်မှတ်ရေးထိုးသည့် နေ့မှစ၍ ကနဦး (၂၀)နှစ် နှင့် နောက်ထပ် (၅)နှစ် (၂)ကြိမ် တိုးမြှင့်ခွင့်ရှိသည်။

၉။ မြန်မာရောင်နီဦး ကုမ္ပဏီ လီမိတက် (Myanmar Yaung Ni Oo Co., Ltd.)သည် ဘဏ်အာမခံငွေအဖြစ် စုစုပေါင်း ရင်းနှီးမြှုပ်နှံမှု၏ (၅)ရာခိုင်နှုန်းနှင့် ညီမျှသော (ကျပ် ၅,၀၀၀,၀၀၀) (ကျပ်ငါးသန်းတိတိ)ကို စာချုပ် လက်မှတ်ထိုးသည့်နေ့တွင် မွေးမြူရေး အစားအစာ နှင့် နို့ထွက်ပစ္စည်း လုပ်ငန်းသို့ပေးသွင်းရမည်။

၁၀။ မြန်မာရောင်နီဦး ကုမ္ပဏီ လီမိတက် (Myanmar Yaung Ni Oo Co., Ltd.)သည် မြေအငှါးချထားသူ မွေးမြူရေး၊ အစားအစာနှင့် နို့ထွက်ပစ္စည်း လုပ်ငန်းသို့ မြေငှါးရမ်းခအဖြစ် တစ်နှစ်လျှင် ကျပ် ၂၈၃၄၅၅၀/- (ကျပ်နှစ်သန်း ရှစ်သိန်း သုံးသောင်း လေးထောင် ငါးရာငါးဆယ်တိတိ)ကို ကြိုတင်ပေးသော စနစ်ဖြင့် ပေးချေရမည်။

၁၁။ မြန်မာရောင်နီဦး ကုမ္ပဏီ လီမိတက် (Myanmar Yaung Ni Oo Co., Ltd.)သည် မြေငှားရမ်းခကို (၆)လလျှင် တစ်ကြိမ် ပထမလအတွင်း ကြိုတင်ပေးချေရမည်။ ငှားရမ်းခကို (၅) နှစ်ကတစ်ကြိမ် နောက်ဆုံးငှားရမ်းခ၏ (၁၅) ရာခိုင်နှုန်းထက် မပိုစေပဲ ပြန်လည်ညှိနှိုင်းခွင့် ရှိစေရမည်။

၁၂။ မြန်မာရောင်နီဦး ကုမ္ပဏီ လီမိတက် (Myanmar Yaung Ni Oo Co., Ltd.)သည် ဌားရမ်းစာချုပ်သက်တမ်း ကုန်ဆုံးပြီးနောက် မြေ၊ အဆောက်အဦး နှင့် တိုးချဲ့ ရင်းနှီးမြှုပ်နှံမှုများကို ဆက်လက်သုံးစွဲနိုင်သည့် အနေအထား အတိုင်း အခမဲ့လွှဲပြောင်းပေးရမည်။

၁၃။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှု နှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ် ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။

၁၄။ အဆိုပြု လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမားဝန်ကြီးဌာန၊ အလုပ်သမား ညှိနှိုင်းကြားမှု ဦးစီးဌာန နှင့် ညှိနှိုင်းဆောင်ရွက်ရမည်။

၁၅။ မြန်မာရောင်နီဦး ကုမ္ပဏီ လီမိတက် (Myanmar Yaung Ni Oo Co., Ltd.)သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်းဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေး အန္တရာယ်စသည်များ၊ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံဂတိပြုထားသည့်အတိုင်း စနစ်တကျ ထားရှိ ဆောင်ရွက်ရမည်။ ယင်းသို့ဆောင်ရွက်ထားရှိမှု အခြေအနေကို ဤ ကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၆။ အဆိုပြု လုပ်ငန်း စတင် ဆောင်ရွက်သည့် နေ့ရက်ကို ဤကော်မရှင်သို့ အမြန်ဆုံး မပျက်မကွက် အစီရင်ခံရမည်။

၁၇။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ တစ်နှစ်အတွင်း အဆိုပြုလုပ်ငန်း စတင် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

အ မိန့် အ ရ –

( ဗိုလ်မှူးချုပ် မောင်မောင် )
အတွင်းရေးမှူး

စာအမှတ်၊ ရက–၁/မ–၂၂၂/၉၈ (၄၀၁၆)
ရက်စွဲ၊ ၁၉၉၈ ခုနှစ်၊ စက်တင်ဘာလ ၄ ရက်။

ဖြန့်ဝေခြင်း–

၁။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ဥက္ကဋ္ဌရုံး။
၂။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ရုံး။
၃။ အစိုးရအဖွဲ့ရုံး။
၄။ စစ်မဟာဗျူဟာ လေ့လာရေးရုံး၊ ကာကွယ်ရေး ဝန်ကြီးဌာန။
၅။ အမျိုးသား စီမံကိန်း နှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။
၆။ အလုပ်သမား ဝန်ကြီးဌာန။
၇။ စီးပွားရေး နှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။

၈။ ဆက်သွယ်ရေး၊ စာတိုက် နှင့် ကြေးနန်း ဝန်ကြီးဌာန။
၉။ ဘဏ္ဍာရေး နှင့် အခွန်ဝန်ကြီးဌာန။
၁၀။ လူဝင်မှု ကြီးကြပ်ရေး နှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန။
၁၁။ လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန။
၁၂။ မွေးမြူရေး နှင့် ရေလုပ်ငန်း ဝန်ကြီးဌာန။
၁၃။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။
၁၄။ ဥက္ကဋ္ဌ၊ နိုင်ငံခြားမတည်ငွေရင်းတန်ဖိုး သတ်မှတ်ရေး အဖွဲ့ငယ်။ (ညွှန်ကြားရေးမှူးချုပ်၊ ဗဟိုစက်ပစ္စည်း စာရင်းအင်း နှင့် စစ်ဆေးရေး ဦးစီးဌာန။)
၁၅။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။
၁၆။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမား ညွှန်ကြားမှု ဦးစီးဌာန။
၁၇။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။
၁၈။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ ဆက်သွယ်ရေး လုပ်ငန်း။
၁၉။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။
၂၀။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်း အခွန်များ ဦးစီးဌာန။
၂၁။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။
၂၂။ ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှု ကြီးကြပ်ရေး နှင့် အမျိုးသား မှတ်ပုံတင်ရေး ဦးစီးဌာန။
၂၃။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။
၂၄။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မွေးမြူရေး အစားအစာ နှင့် နို့ထွက်ပစ္စည်းလုပ်ငန်း။
၂၅။ ဥက္ကဋ္ဌ၊ ပြည်ထောင်စု မြန်မာနိုင်ငံ ကုန်သည်များ နှင့် စက်မှုလက်မှုလုပ်ငန်းရှင်များ အသင်း။
၂၆။ အုပ်ချုပ်မှု ဒါရိုက်တာ၊ မြန်မာရောင်နီဦး ကုမ္ပဏီ လီမိတက် (Myanmar Yaung Ni Oo Co., Ltd.)။

အ မိန့် အ ရ –

( မောင်မောင်ရီ )
တွဲဖက်အတွင်းရေးမှူး

R-3385
2-9-98

3120
2-9-98

အထွေထွေအရပ်ရပ်–၁၆

( ရုံးတွင်း စာအကျဉ်းချုပ်သို့တည်း မဟုတ်စာကြမ်းရေးရန်အတွက် )

အကြောင်းအရာ။ ။ <u>မြန်မာယောင်နီဦးကုမ္ပဏီလီမိတက်မှ စိုက်ပျိုးရေး၊ တိရစ္ဆာန်မွေးမြူရေး နှင့်ငါးမွေးမြူရေးလုပ်ငန်းများဆောင်ရွက်ရန်အဆိုပြုတင်ပြခြင်းကိစ္စ။</u>

၁။ မြန်မာ့ကုမ္ပဏီဖြစ်သော မြန်မာယောင်နီဦးကုမ္ပဏီလီမိတက် ( Myanmar Yaung Ni Oo Co., Ltd. ) သည် မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန၊ မွေးမြူရေးအစားအစာနှင့်နို့ထွက်ပစ္စည်းလုပ်ငန်းပိုင်ရန်ကုန်တိုင်း၊ လှည်းကူးမြို့နယ်၊ ငါးဆူတောင်ကျေးရွာရှိ မြေ ( ၁၁၃၃.၈၂ ) ဧကကို ကနဦးနှစ် ( ၂၀ ) နှင့်နောက်ထပ် ( ၅ ) နှစ် ( ၂ ) ကြိမ်ငှါးရမ်း၍ စိုက်ပျိုးရေး၊ တိရစ္ဆာန် မွေးမြူရေးနှင့်ငါးမွေးမြူရေးလုပ်ငန်းများကိုမြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီဆောင်ရွက်ခွင့်ပြုပါရန်အဆိုပြုတင်ပြချက်အား ( ၃၁-၇-၉၈ ) နေ့တွင်ကျင်းပပြုလုပ်သည့်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ( ၁၃/၉၈ ) ကြိမ်မြောက်အစည်းအဝေးသို့တင်ပြခဲ့ပါသည်။

၂။ ကော်မရှင်မှမူအားဖြင့်သဘောတူညီခဲ့ပြီး ၊ အစိုးရအဖွဲ့သို့ဆက်လက်တင်ပြရန်ဆုံးဖြတ်ချက်နှင့်အညီ ( ၂၀-၈-၉၈ ) နေ့တွင်ကျင်းပပြုလုပ်သည့်ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့၏ ( ၂၈/၉၈ ) ကြိမ်မြောက်အစည်းအဝေးသို့တင်ပြခဲ့ရာယင်းအစည်းအဝေးမှသဘောတူကြောင်းဆုံးဖြတ်ခဲ့ပါသည်။

အထွေထွေအရပ်ရပ် - ၁၆

( ရုံးတွင်းစာအကျဉ်းချုပ်သို့တည်းမဟုတ်စာကြမ်းရေးရန်အတွက် )

၃။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအခန်း (၅)၊ ပုဒ်မ ၁၀ နှင့် ယင်းဥပဒေဆိုင်ရာ လုပ်ထုံးလုပ်နည်းများ အခန်း (၄)၊ အပိုဒ် ၁၂ တို့နှင့်အညီ မြန်မာရောင်နီဦးကုမ္ပဏီလီမိတက် ( Myanmar Yaung Ni Oo Co.,Ltd.) သို့ထုတ်ပေးမည့် ခွင့်ပြုမိန့် တွင်လက်မှတ်ရေးထိုးနိုင်ပါရန်နှင့် ယင်းခွင့်ပြုမိန့်ထုတ်ပေးမည့် အမှာစာ (မူကြမ်း) ကိုသဘောတူ အတည်ပြုပေးနိုင်ပါရန်ပြုရတင်ပြအမိန့်နာခံအပ်ပါသည်။

၂-၆-၉၀။

အတွင်းရေးမှူး (ဝန်ကြီး)။

Permit [illegible]

ဥက္ကဋ္ဌ (ဒုတိယဝန်ကြီးချုပ်)။

ပြည်ထောင်စုမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ၇၈-၁/မ-၀၀၉/၉၀(၃၆၀၃)
ရက်စွဲ။ ၁၉၉၀ ခုနှစ်၊ ဩဂုတ်လ ၁၄ ရက်။

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့သို့
တင်ပြသည့်အမှာစာ

အကြောင်းအရာ။ ။ မြန်မာရောင်နီဦး ကုမ္ပဏီလီမိတက်မှ ရိုက်ကူးရေး၊ တိရစ္ဆာန်မွေးမြူရေး နှင့် ငါးမွေးမြူရေးလုပ်ငန်းများ ဆောင်ရွက်ရန်အဆိုပြုတင်ပြခြင်း ကိစ္စ။

၁။ မြန်မာကုမ္ပဏီဖြစ်သောမြန်မာရောင်နီဦး ကုမ္ပဏီလီမိတက် ( Myanmar Yaung Ni Oo Co.,Ltd ) မှ ရိုက်ကူးရေး၊ တိရစ္ဆာန်မွေးမြူရေးနှင့် ငါးမွေးမြူရေး လုပ်ငန်းများ ကိုမြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ရန်အဆိုပြုတင်ပြလာပါသည်။ ယင်းအဆိုပြုချက်ကို ( ၃၁-၇-၉၀ ) နေ့တွင်ကျင်းပပြုလုပ်သည့်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ( ၁၃/၉၀ ) ကြိမ်မြောက်အစည်းအဝေးသို့တင်ပြခဲ့ရာ ယင်းအစည်းအဝေးမှလုပ်ငန်းဆောင်ရွက်ရန်မှာအားဖြင့်သဘောတူပြီး အစိုးရအဖွဲ့သို့ဆက်လက်တင်ပြရန်ဆုံးဖြတ်ချက်အရတင်ပြခြင်းဖြစ်ပါသည်။ အဆိုပြုချက်နှင့်အတူစက်ပစ္စည်းများနှင့်မော်တော်ယာဉ်များဝယ်ယူရန် Supplier's Credit Agreement ( မူကြမ်း ) နှင့် မြေငှါးစာချုပ် ( မူကြမ်း ) တို့ကို နောက်ဆက်တွဲ( ၁ ) အဖြစ်ပေးပို့ထားပါသည်။

၂။ ဤလုပ်ငန်း၏မတည်ငွေရင်း ပမာဏမှာအမေရိကန်ဒေါ်လာ ( ၀.၅၃ ) သန်းအပါအဝင်ကျပ် ( ၉၉.၀၇ ) သန်းဖြစ်ပါသည်။ ယင်းတွင်ငွေသားကျပ် ( ၇၀.၄၀ ) သန်း၊ စက်ပစ္စည်းနှင့်မော်တော်ယာဉ်များတန်ဖိုးကျပ် ( ၃.၁၇ )သန်း [ အမေရိကန်ဒေါ်လာ ( ၀.၅၃ ) သန်း ]၊ အဆောက်အဦများတန်ဖိုးကျပ် (၁၇.၀၄) သန်းနှင့်ပရိဘောဂနှင့်လုပ်ငန်းသုံးပစ္စည်းများတန်ဖိုးကျပ် ( ၀.၄၆ ) သန်းကို ထည့်ဝင်ရင်းနှီးမည်ဖြစ်ပါသည်။ စက်ပစ္စည်းနှင့်မော်တော်ယာဉ်များကိုစက်ာပူနိုင်ငံ

One M(S) Pte. Ltd. မှ Supplier's Credit Agreement အရ အတိုးနှုန်း (၈) ရာခိုင်နှုန်း ဖြင့်ဆိုင်းငံ့ကာလ (၂) နှစ်အပါအဝင် (၅) နှစ်အတွင်း ပြန်လည်ပေးဆပ်ရမည်ဖြစ်ပါသည်။

၃။ ဤလုပ်ငန်းကို ဆောင်ရွက်ရန်အတွက် မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန၊ မွေးမြူရေးအစားအစာနှင့်နို့ထွက်ပစ္စည်းလုပ်ငန်းပိုင်ရန်ကုန်တိုင်း လှည်းကူးမြို့နယ်၊ ငါးဆူတောင်ကျေးရွာရှိ မြေ (၁၁၃၃.၀၂) ဧကတို ငါးရမ်း လုပ်ငန်း လုပ်ကိုင်မည်ဖြစ်ပါသည်။

၄။ ဤလုပ်ငန်း ဆောင်ရွက်ရန်အတွက် မွေးမြူရေးအစားအစာနှင့် နို့ထွက်ပစ္စည်းလုပ်ငန်း နှင့်မြန်မာရောင်နီဦး ကုမ္ပဏီလီမိတက်တို့ချုပ်ဆိုထားသည့် မြေငှါးစာချုပ်ပါအဓိကအချက်များမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

(က) မြေငှါးကာလမှာကနဦး (၂၀) နှစ်နှင့်နောက်ထပ် (၅) နှစ် (၂) ကြိမ်တိုးမြှင့်ခွင့်ရှိမည်ဖြစ်ပါသည်။

(ခ) နှစ်စဉ်မြေငှါးရမ်းခမှာစုစုပေါင်းမြေဧရိယာ (၁၁၃၃.၀၂) ဧကအတွက်တစ်နှစ်လျှင်ကျပ် (၂.၈၃) သန်းခန့်ဖြစ်ပါသည်။ မြေငှါးခကို (၆) လလျှင်တစ်ကြိမ်ပထမလအတွင်း ပေးချေရန်ဖြစ်ပါသည်။ မြေငှါးရမ်းခကို (၅) နှစ်လျှင်တစ်ကြိမ်ပြန်လည်စိစစ်ရန်နှင့်ငှါးရမ်းခတိုးမြှင့်ခြင်းကို နောက်ဆုံးငှါးရမ်းခ၏ (၁၅) ရာခိုင်နှုန်း ထက်မပိုစေရန်သတ်မှတ်ထားပါသည်။

(ဂ) ငှါးရမ်းစာချုပ်သက်တမ်းကုန်ဆုံးပြီး နောက် မြေ၊ အဆောက်အဦနှင့်တိုးချဲ့ရင်းနှီးမြှုပ်နှံမှုများကိုဆက်လက်သုံးစွဲနိုင်သည့် အနေအထားအတိုင်း အခမဲ့လွှဲပြောင်းပေးရမည်ဖြစ်ပါသည်။

(ဃ) ဤလုပ်ငန်းအတွက်ဘဏ်အာမခံကြေးအဖြစ် စုစုပေါင်းရင်းနှီးမြှုပ်နှံမှု၏ (၅) ရာခိုင်နှုန်းနှင့်ညီမျှသော ငွေကျပ် (၅) သန်း ကို မွေးမြူရေး၊ အစားအစာနှင့်နို့ထွက်ပစ္စည်းလုပ်ငန်းအမည်ဖြင့် ပြည်တွင်းဘဏ်တစ်ခုတွင်စာချုပ်လက်မှတ်ရေးထိုးသည့်နေ့တွင်ထားရှိပေးရန်နှင့်လုပ်ငန်းတွင်ကျပ် (၂၅) သန်းထိမြှုပ်နှံပြီးလျှင်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏သဘောတူညီချက်ဖြင့်ကုမ္ပဏီမှ ပြန်လည်ထုတ်ယူခွင့်ရှိမည်ဖြစ်ပါသည်။

(င) ငါးဆူတောင်ဘက်ရုံ ပိုက်ပျိုးမွေးမြူရေးစခန်း၌ ရပိုင်ခွင့်နှင့် အဆောက်အဦများ၏ ငါးရမ်းသည့်နေ့၌တန်ဖိုးသင့်သတ်မှတ်ထားသည့်လက်ကျန်တန်ဖိုးကို (၄) ရစ်ခွဲ၍ ပထမအရစ်ကို ဝါချုပ်ချုပ်ဆိုမည့်နေ့တွင် ပေးချေရမည်ဖြစ်ပြီး၊ ကျန်အရစ်များကို (၆) လတစ်ကြိမ် ပေးချေရမည်ဖြစ်ပါသည်။ ယင်းတန်ဖိုးကို မတည်ငွေရင်း အဖြစ်ထည့်ဝင်ထားပါသည်။

ပထမအရစ်ကျစ် ၂၅.၀သန်း
ဒုတိယအရစ်ကျစ် ၅.၀သန်း
တတိယအရစ်ကျစ် ၅.၀သန်း
စတုတ္ထအရစ်ကျစ် ၅.၀သန်း

၅။ ပုံမှန်နှစ်တွင် ဤလုပ်ငန်း၏ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်းများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

| စဉ် | အမျိုးအမည် | ရေတွက်ပုံ | ထုတ်လုပ်မှု | ရောင်းဈေးနှုန်း |
|---|---|---|---|---|
| | ပြည်ပရောင်း | | | |
| ၁ | သရက်သီး | ကီလို (၀၀၀) | ၃၂ | US$ ၉ / ကီလို |
| | ပြည်တွင်းရောင်း | | | |
| ၁ | သရက်သီး | လုံး (၀၀၀) | ၄၉၃.၆၀ | ကျပ် ၃၀ / ယူနစ် |
| ၂ | မာလကာသီး | ။ | ၄၂၆.၀၀ | ကျပ် ၂၅ / ယူနစ် |
| ၃ | သဘောသီး | ။ | ၃၀၀.၀၀ | ကျပ် ၂၅ / ယူနစ် |
| ၄ | သရက်ပျိုးပင် | ပင် (၀၀၀) | ၅.၀၀ | ကျပ်၂၀၀/ ယူနစ် |
| ၅ | မာလကာပျိုးပင် | ။ | ၂၀.၀၀ | ကျပ်၅၀ / ယူနစ် |
| ၆ | ကြက်သား | ပိဿာ (၀၀၀) | ၁၆၅.၆ | ကျပ်၂၀၀/ ယူနစ် |
| ၇ | ဘဲသား | ။ | ၂၁.၀ | ကျပ်၃၀၀/ ယူနစ် |
| ၈ | ငါး | ။ | ၁၆၉.၅ | ကျပ် ၁၃၀/ယူနစ် |

၆။ ဤလုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့်ပုံမှန်နှစ်တွင်ရရှိမည့်ဝင်ငွေနှင့်အသုံးစရိတ်ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

(ကျပ်သန်း)

| | ပြည်တွင်း | နိုင်ငံခြား | စုစုပေါင်း |
|---|---|---|---|
| (က) ဝင်ငွေ | ၁၆၂.၉၁ | ၁.၃၇ | ၁၆၄.၂၀ |
| (ခ) အသုံးစရိတ် | ၁၃၃.၆၇ | ၀.၃၃ | ၁၃၄.၀၀ |
| (ဂ) အသားတင်အမြတ် | ၂၉.၂၄ | ၁.၀၄ | ၃၀.၂၀ |

၇။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့်အကျိုး အမြတ်ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

| | | |
|---|---|---|
| (က) ဝင်ငွေခွန် (ကျပ်သန်း) | | ၁၁.၀၁ |
| | (အမေရိကန်ဒေါ်လာသန်း) | ၀.၀၄ |
| (ခ) မြေငှါးရမ်းခ (ကျပ်သန်း) | | ၂.၀၃ |

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ရန်အတွက်ပြည်တွင်း မှဝန်ထမ်း(၂၇၅) ဦးကိုခန့်ထား ဆောင်ရွက်မည်ဖြစ်ပါသည်။

၉။ ဤလုပ်ငန်းကို ဆောင်ရွက်ရာတွင်မြန်မာနိုင်ငံသားများ သာလျှင်ပိုင်ဆိုင်သော လုပ်ငန်းဖြစ်ပြီး နိုင်ငံခြားမှမည်သူမျှပိုင်ဆိုင်မှုမရှိကြောင်း၊ မြေယာနှင့်ပတ်သက်၍ နိုင်ငံတော်မှသတ်မှတ်ပြဋ္ဌာန်းမည့်စည်းကမ်းသတ်မှတ်ချက်များကိုလိုက်နာ ဆောင်ရွက်မည်ဖြစ်ကြောင်း၊ ဥပဒေအရခွင့်ပြုသည့်အဆင့်နှင့် စံအတွင်း ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ရန်စည်းကမ်းသတ်မှတ်ချက်များကို လိုက်နာမည်ဖြစ်ကြောင်းနှင့်ပြည်ပမှချေးငွေရယူခြင်းသည်နိုင်ငံတော်နှင့်သက်ဆိုင်ခြင်း မရှိဘဲအဆိုပြုလုပ်ငန်းမှရရှိသည့်တရားဝင်နိုင်ငံခြားငွေဖြင့်သာပေးဆပ်မည်ဖြစ်ကြောင်း ကတိဝန်ခံချက်ပေးထားပါသည်။

၁၀။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါအခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကိုခံစားခွင့်ပြုရန် လျှောက်ထားလာပါသည်။ ဥပဒေပုဒ်မ ၁၂ အရ၊ စီးပွားရေးလုပ်ငန်းစတင်သောနှစ်အပါအဝင်တစ်ဆက်တည်း (၃) နှစ်အတွက်ဝင်ငွေခွန်ကင်းလွတ်ခွင့်ပေးရမည်ဖြစ်ပါသည်။ ဥပဒေပုဒ်မ ၁၃ အရ၊ အခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များ အနက်လုပ်ငန်းနှင့်သက်ဆိုင်သည့်အခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကို ခံစားခွင့်ပြုရန် ကော်မရှင်မှညှိနှိုင်းဆုံးဖြတ်ခဲ့ပါသည်။

၁၁။ **ဆုံးဖြတ်ရန်အချက်**

(က) မြန်မာရောင်နီဦး ကုမ္ပဏီလီမိတက်မှ စိုက်ပျိုးရေး၊ တိရစ္ဆာန်မွေးမြူရေးနှင့်ငါး မွေးမြူရေးလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန်သဘောတူ-မတူ။

(ခ) လုပ်ငန်းဆောင်ရွက်ရန်သဘောတူပါကမြန်မာနိုင်ငံ သားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါအခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့်သက်သာခွင့်များ ကိုခံစားခွင့်ပြုရန်သဘောတူ-မတူ။

၁၂။ **မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ထောက်ခံချက်။**

အစိုးရအဖွဲ့၏ဆုံးဖြတ်ချက်ကိုနာခံအပ်ပါသည်။

[ ဗိုလ်မှူးချုပ်မောင်မောင် ]
ဝန်ကြီး
နိုင်ငံတော်အေးချမ်းသာယာရေးနှင့်
ဖွံ့ဖြိုးရေးကောင်စီဥက္ကဋ္ဌရုံး
နှင့်
အတွင်းရေးမှူး
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်။

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့။



ဝင်း/*

| | |
|---|---|
| မြန်မာ့ရောင်နီဦး ကုမ္ပဏီလီမိတက်မှ စိုက်ပျိုးရေး၊ တိရစ္ဆာန်မွေးမြူရေး နှင့် ငါးမွေးမြူရေးလုပ်ငန်းများ ဆောင်ရွက်ရန် အဆိုပြုလွှာတင်ပြခြင်းကိစ္စ။<br><br>ကော်မရှင်၏ ၂၈-၇-၈၈ ရက်စွဲပါ [illegible]၊ ရက-၆(ခ)/ ၁၀၉/၉၀(၃၁၉၈)။<br><br>တွဲဖက်အတွင်းရေးမှူး ဦးမောင်မောင်ရီက အမှာစာကို ရှင်းလင်းတင်ပြပါသည်။<br><br>ဒုတိယဝန်ကြီးချုပ် ဒုတိယဗိုလ်ချုပ်ကြီး မောင်မောင်ခင်က မြန်မာ့ရောင်နီဦး ကုမ္ပဏီလီမိတက်မှ စိုက်ပျိုးရေး၊ တိရစ္ဆာန်မွေးမြူရေး | [illegible]<br>၁၇/၈၈ ကော်မရှင် မှတ်တမ်း<br>(၃၁-၇-၈၈)<br>(၄-၈-၈၈) |

ဆို့ဖက်

၀၉၂၈

၁၂/၉၈ [illegible]
မှတ်တမ်း
(၃.၇.၉၈)



| အမှတ်စဉ် | ဆွေးနွေးချက်နှင့်ဆုံးဖြတ်ချက် | ဆောင်ရွက်ရန် ဌာန |
| --- | --- | --- |
| ၁ | ၂ | ၃ |
| ၁။ | မြန်မာရောင်နီဦး ကုမ္ပဏီလီမိတက် (Myanmar Yaung Ni Co Co., Ltd. ) မှ စိုက်ပျိုးရေး ၊ ပုဇွန်မွေးမြူရေး နှင့် ငါးမွေးမြူရေး လုပ်ငန်းများ ဆောင်ရွက်ရန်အဆိုပြုတင်ပြခြင်း ကိစ္စ ။<br><br>တွဲဖက်အတွင်းရေးမှူး ဦးမောင်မောင်ရီက သုံးသပ်ချက်ကို ရှင်းလင်းတင်ပြပါသည်။<br><br>ဒုတိယဝန်ကြီးချုပ်၊ ဒုတိယဗိုလ်ချုပ်ကြီးမောင်မောင်ခင်က မြေဧရိယာ ၁၁၁၃၃.၀၂ ဧကတွင် စိုက်ပျိုးရေးအတွက်မည်မျှ၊ ငါးမွေးကန်အတွက်မည်မျှ၊ မွေးမြူရေးလုပ်ငန်း အတွက်မည်မျှသုံးစွဲမည်ကို မေးမြန်းရာ ဦးဆောင်ညွှန်ကြားရေးမှူး ဒုတိယဗိုလ်မှူးကြီးဆင်မောင်အေးက စိုက်ပျိုးရေး အတွက် ၄၀၀၀ ဧက၊ ငါးမွေးမြူရေးနှင့် ရေလှောင်ကန်အတွက် ၃၅၀ ဧက၊ အခြားမွေးမြူရေးလုပ်ငန်းများ အတွက် ၃၇၅ ဧက၊ စုစုပေါင်း ၁၁၃၃ ဧကဖြစ်ပါကြောင်း ပြောကြားပါသည်။<br><br>ညွှန်ကြားရေးမှူးချုပ် ဦးမောင်မောင်ညွန့်က အဆိုပါကိစ္စမှာ နိုင်ငံခြားကုမ္ပဏီဖြင့် ဆောင်ရွက်သော ဖက်စပ်လုပ်ငန်းအား ဖျက်သိမ်းပြီး ကော်မရှင်သို့ မြေငှားရမ်းခွင့်တင်ပြခဲ့ရာ ကော်မရှင်၏ ၈/၉၇ အစည်းအဝေး မှ သဘောတူညီပါကြောင်း၊ ယခုတင်ပြထားချက်များမှာ ကော်မရှင်မှလမ်းညွှန်ခဲ့သော ငှားရမ်းခနှုန်းများအတိုင်း ဖြစ်ပါကြောင်း၊ ဖက်စပ်ကုမ္ပဏီဖျက်သိမ်းစဉ်က မွေးမြူရေးအစားအစာ နှင့်နို့ထွက်ပစ္စည်းလုပ်ငန်းအနေဖြင့်ကျပ် ၂.၅ သန်း ပေးရန်ရှိနေပါကြောင်း သို့ဖြစ်ရာ ပုဂ္ဂလိကကုမ္ပဏီသို့ဆက်လက်ငှားရမ်းရန်စီစဉ်ပါကြောင်း ၊ အငှားချထားခြင်းခံရသူမှ ဘက်စုံမွေးမြူရေးစခန်းရှိအဆောက်အဦ နှင့်ရပိုင်ခွင့်များ၏ လက်ကျန်တန်ဖိုး အတွက်သတ်မှတ်သော ကျပ်သန်း ၄၀ ကို ၄ ရစ်ခွဲ၍ ပေးမည်ဖြစ်ပါကြောင်း ပြောကြားပါသည်။ | |

| အမှတ်စဉ် | ဆွေးနွေးချက်နှင့်ညှိနှိုင်းဆုံးဖြတ်ချက် | ဆောင်ရွက်ရန် |
|---|---|---|
| ၁ | ၂ | ၃ |
| | ဒုတိယဝန်ကြီးချုပ် ဒုတိယဗိုလ်ချုပ်ကြီး မောင်မောင်ခင် က ဧက ၁၁၃၃ အတွက် တစ်နှစ်ကျပ် ၂.၀၃ သန်း မှာ နည်းကြောင်း၍ တွင် အပင်များ ငါးကန်များ အများစုမှာ အာ ငှားသင့်၍ နေသော ပစ္စည်းများ ဖြစ်ကြောင်း ၊ ယခုနှစ်မှ နိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အရစ်စား နှင့် ရရှိမည်ဖြစ်ရာ ရှေးခတ်တိုးမြှင့် ပေးသင့်ကြောင်း တစ်နှစ်အတွက် ကျပ် ၃.၂ သန်း ခန့်အတော်ညှိနှိုင်းတောင်းခြည့်ရန်ဖြစ်ကြောင်း ၊ တစ်ဖက်တွင် ကော်မရှင်မှ ဆုံးဖြတ်ပြီး ဖြစ်သောကြောင့်ဖြစ်၍ အတင်း သဘြပ် တောင်း၍ မဖြစ်ကြောင်း ပြောကြားပါသည်။<br><br>တွဲဖက်အတွင်းရေးမှူး ဦး မောင်မောင် ရိုက ... မှ တင်သွင်းခွင့်ပြုရန် တင်ပြထားသော စက်ပစ္စည်းစာရင်းကို တင်ပြရာ ဒုတိယဝန်ကြီးချုပ် ဒုတိယဗိုလ်ချုပ်ကြီး မောင်မောင်ခင်က Tractor ၂၄ စီး တင်ပြထားသည်ကို ၁၂ စီး ခွင့်ပြုရန်နှင့် စက်ပစ္စည်းအပိုင်းတွင်ကျန် Excavater ၁ စီး ၊ Multipurpose Tractor ၁ စီး နှင့် Gener - ator ၁ လုံး တို့ကို ခွင့်ပြုကြောင်း၊ မော်တော်ယာဉ်တင်သွင်းခွင့်နှင့် စပ်လျဉ်း၍ Truck Car 2 tan & up - ၆ စီးကို အခွန်အကောက် ကင်းလွတ်ခွင့်ဖြင့် တင်သွင်းခွင့်ပြုရန်နှင့် တည်ဆောက်ဆဲကာလအတွင်း - Pick up ၁ စီး ၊ Mini Bus ၁ စီး နှင့် Saloon ၁ စီး တို့ကို အခွန်အကောက်ကင်းလွတ်ခွင့်ဖြင့်လည်းကောင်း လုပ်ငန်းဆောင်ရွက်ချိန်တွင် Pick up ၁ စီး ၊ Mini Bus ၁ စီး နှင့် Saloon ၁ စီး တို့ကို အခွန်အကောက် ၅၀% သက်သာခွင့်ဖြင့် တင်သွင်းခွင့်ပြုရန်ဖြစ်ကြောင်း ပြောကြားပါသည်။ | |

| အမှတ်စဉ် | ဆွေးနွေးချက်နှင့်ညှိနှိုင်းဆုံးဖြတ်ချက် | ဆောင်ရွက် |
| --- | --- | --- |
| | | သို့ ၁၁၇ |
| ၁ | ၂ | ၃ |
| | **ဆုံးဖြတ်ချက်။**<br>(၁) မြန်မာ့ရောင်နီဦးကုမ္ပဏီလီမိတက်၏ စိုက်ပျိုးရေး၊ တိရစ္ဆာန်မွေးမြူရေး နှင့် ငါးမွေးမြူရေး လုပ်ငန်း ဆောင်ရွက်ရန်တင်ပြခြင်းအား မူအားဖြင့်သဘောတူသဖြင့် ကော်မရှင်သို့ဆက်လက်တင်ပြရန်၊<br>(၂) မော်တော်ယာဉ်တင်သွင်းခွင့်နှင့်စပ်လျဉ်း၍ [illegible] ဆောက်ဆဲကာလတွင် Truck Car 2 tan & up ၆စီး၊ Pick up ၁စီး၊ Mini Bus ၁စီးနှင့် Saloon ၁စီးတို့ကိုအခွန်အကောက်ကင်းလွတ်ခွင့်ဖြင့်လည်းကောင်း၊ လုပ်ငန်းဆောင်ရွက်သည့်ကာလတွင် Pick up ၁စီး၊ Mini Bus ၁စီး နှင့် Saloon ၁စီးတို့ကိုအခွန်အကောက် ၅၀%သက်သာခွင့်ဖြင့်တင်သွင်းခွင့်ပြုရန်၊<br>(၃) စက်ပစ္စည်း စာရင်း၌ Tractor ၁၂စီး၊ Excavater ၁စီး၊ Multipurpose Tractor ၁စီး နှင့် Generator ၁လုံး တင်သွင်းခွင့်ပြုရန် | ...တွင်းရေး<br>မွေးမြူရေး<br>နှင့်ရေလုပ်ငန်း<br>ဝန်ကြီးဌာ |

ယာဉ်များ ကိုစင်ကာပူနိုင်ငံ One M(S) Pte. Ltd. ၏ Supplier's Credit Agreement အရ အတိုးနှုန်း (၀) ရာခိုင်နှုန်းဖြင့် ဆိုင်းငံ့ကာလ(၂) နှစ်အပါအဝင်(၅)နှစ်အတွင်း ပြန်လည်ပေးဆပ်ရမည်ဖြစ်ပါသည်။

၃။ ၎င်းလုပ်ငန်းကို ဆောင်ရွက်ရန်အတွက် မွေးမြူရေးနှင့် ရေလုပ်ငန်း ဝန်ကြီးဌာန၊ မွေးမြူရေး အစားအစာနှင့်နို့ထွက်ပစ္စည်းလုပ်ငန်း ပိုင်ရန်ကုန်တိုင်း၊ မှော်ဘီမြို့နယ်၊ ဝါးလှဆောင်ကျေးရွာမှာရှိ မြေ(၁၁၃၃.၀၂) ဧကကို ငှားရမ်း၍ လုပ်ငန်းလုပ်ကိုင်မည်ဖြစ်ပါသည်။

၄။ ၎င်းလုပ်ငန်း ဆောင်ရွက်ရန်အတွက် မွေးမြူရေး အစားအစာနှင့် နို့ထွက်ပစ္စည်း လုပ်ငန်း နှင့်မြန်မာ ရေဝင်နီဦး ကုမ္ပဏီလီမိတက်တို့ ချုပ်ဆိုထားသည့်မြေငှားစာချုပ် ပါစည်းကမ်းချက်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

(က) မြေငှားကာလမှာ ကနဦး( ၂၀ ) နှစ်နှင့် နောက်ထပ်( ၅ ) နှစ် ( ၂ ) ကြိမ်တိုး မြှင့်ခွင့်ရှိမည်ဖြစ်ပါသည်။

(ခ) နှစ်စဉ် မြေငှားရမ်းခမှာ စုစုပေါင်း မြေဧရိယာ( ၁၁၃၃.၀၂ ) ဧကအတွက်တစ်နှစ်လျှင်ကျပ်( ၂.၀၃ )သိန်း ခန့်ဖြစ်ပါသည်။ မြေငှားခကို( ၆ ) လလျှင်တစ်ကြိမ် ပထမလအတွင်း ပေးချေရန်ဖြစ်ပါသည်။ မြေငှားရမ်းခကို( ၅ ) နှစ်လျှင်တစ်ကြိမ်ပြန်လည်စိစစ်ရန်နှင့်ငှားရမ်းခတိုးမြှင့်ခြင်းကို နောက်ဆုံး ငှားရမ်းခ၏(၁၅) ရာခိုင်နှုန်း ထက်မပိုစေရန်သတ်မှတ်ထားပါသည်။

(ဂ) ငှားရမ်း စာချုပ်သက်တမ်း ကုန်ဆုံးပြီး နောက် မြေ၊ အဆောက်အဦနှင့်ငွေရင်းနှီးမြှုပ်နှံမှုများ ကိုအသုံးပြုနိုင်သည့်အနေအထားအတိုင်း အခမဲ့ပြောင်း ပေးရမည်ဖြစ်ပါသည်။

(ဃ) ၎င်းလုပ်ငန်းအတွက်ဘဏ်အာမခံကြေးအဖြစ် စုစုပေါင်းရင်းနှီးမြှုပ်နှံမှု၏(၅)ရာခိုင်နှုန်း နှင့်ညီမျှသော ငွေကျပ်( ၅ ) [illegible] ပေး၊ မွေးမြူရေး၊ အစားအစာနှင့်နို့ထွက်ပစ္စည်း လုပ်ငန်းမှ ညွှန်ကြားသည့်ဘဏ်တစ်ခုတွင်စာချုပ်သက်မှတ်ရေးထိုးသည့်နေ့မှစ၍ ပေးရန်နှင့်လုပ်ငန်းတွင်ကျပ်( ၂၅ ) သိန်းထိမြှုပ်နှံပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ သဘောတူညီချက်ဖြင့်ကုမ္ပဏီမှ ပြန်လည်ထုတ်ယူခွင့်ရှိမည်ဖြစ်ပါသည်။

(င) ငါး ဆူ ဟော ခင်းဟတ်စုံစိုက်ပျိုး မွေးမြူရေး စခန်း ရှိ ရ ပိုင် ဆိုင်နှင့် ပ ဆေ ခတ်အညီ များ ဆိုင်ရာ ရမ်း သည့် နေ့ရှိပြန်ဖိုး သင့်သင့် ကိ ထား သည့်လက်ကျန်တန်ဖိုး ကို (၄) ရပ်ခွဲ ပထမ ရပ် ၁ ၁ ချုပ်ချုပ် ဆိုမည့် နေ့တွင် ပေး ချေရမည်ဖြစ်ပြီး ကျန်အရစ်များ ကို (၆) လ တ ်ခြား ပေး ချေရမည်ဖြစ်ပါသည်။ ယင်း တန်ဖိုး ကိုပ ေ ၇ ငွေရင်း ၊ ဖြစ်ထည့်ဝင်ထား ပါသည်။

ပထမအရစ်ကျ ၂၅.၀ သန်း
ဒုတိယအရစ်ကျ ၅.၀ သန်း
တတိယအရစ်ကျ ၅.၀ သန်း
စတုတ္ထအရစ်ကျ ၅.၀ သန်း

၅။ ပုံမှန်နှစ်တွင် ထုတ်လုပ်မည့် ထွက်ကုန်ပစ္စည်းနှင့် ရောင်း ချ နှုန်းများ မှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

| စဉ် | အမျိုးအမည် | ရေတွက်ပုံ | ထုတ်လုပ်မှု | ရောင်းချမည့်ဈေးနှုန်း |
|---|---|---|---|---|
| | ပြည်ပရောင်း | | | |
| ၁ | သရက်သီး | ကီလို (၀၀၀) | ၃၂ | US$ ၆ / ကီလို |
| | ပြည်တွင်းရောင်း | | | |
| ၁ | သရက်သီး | လုံး (၀၀၀) | ၄၆၇.၆၀ | ကျပ် ၃၀/ယူနစ် |
| ၂ | မာလကာသီး | ॥ | ၄၂၆.၀၀ | ကျပ် ၂၄/ယူနစ် |
| ၃ | သစ်တော်သီး | ॥ | ၃၀၀.၀၀ | ကျပ် ၂၅/ယူနစ် |
| ၄ | သရက်မျိုးပင် | ပင် (၀၀၀) | ၅.၀၀ | ကျပ် ၂၀၀/ယူနစ် |
| ၅ | မာလကာမျိုးပင် | ॥ | ၂၀.၀၀ | ကျပ် ၅၀/ယူနစ် |
| ၆ | ကြက်သား | ပိဿာ (၀၀၀) | ၁၆၅.၆ | ကျပ် ၂၀၀/ယူနစ် |
| ၇ | ဘဲသား | ॥ | ၂၀.၀ | ကျပ် ၃၀၀/ယူနစ် |
| ၈ | ငါး | ॥ | ၅၆၆.၅ | ကျပ် ၁၃၀/ယူနစ် |

ပူးတွဲ

မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၃ အရ အခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များ ရရှိရေးအတွက် လျှောက်ထားချက်အပေါ် အောက်ပါအတိုင်း သုံးသပ်တင်ပြပါသည်။

- ဥပဒေပုဒ်မ ၃ (က) အရ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုတွင် ပါဝင်သော နိုင်ငံခြားငွေပမာဏအပေါ် မူတည်၍ ဝင်ငွေခွန်သက်သာခွင့်နှင့်ပတ်သက်၍ ကနဦး ရင်းနှီးမြှုပ်နှံမှုကာလအတွင်း နိုင်ငံခြားငွေဖြင့် ရင်းနှီးမြှုပ်နှံသည့်ပမာဏကို ဖော်ပြလျက် ကော်မရှင်သို့ လျှောက်ထားလာသည့်အခါ စဉ်းစားခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၃ (ခ) အရ လုပ်ငန်းမှ ပြည်ပတင်ပို့ရောင်းချခြင်းမှ နိုင်ငံခြားငွေဖြင့် ရရှိသည့်အမြတ်ငွေအပေါ် (၅၀) ရာခိုင်နှုန်း ဝင်ငွေခွန်သက်သာခွင့်နှင့်ပတ်သက်၍ လုပ်ငန်း၏ အမှန်တကယ်အကောင်အထည်ဖော်နိုင်မှုအခြေအနေကို ဖော်ပြလျက် ပထမ ဝင်ငွေခွန်ကင်းလွတ်ခွင့် (၃) နှစ်ခံစားပြီးနောက် ကော်မရှင်သို့ လျှောက်ထားလာသည့်အခါ စဉ်းစားခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၃ (ဂ) အရ ကုန်ထုတ်လုပ်မှုကြောင့် ပြည်တွင်း၊ ပြည်ပဝင်ငွေတိုးတက်မှုရှိပါက သတ်မှတ်ချက်နှင့်အညီ ဝင်ငွေခွန်သက်သာခွင့်ကို လုပ်ငန်းအကောင်အထည်ဖော်မှုအရ လျှောက်ထားလာသည့်အခါ စဉ်းစားခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၃ (ဃ) အရ သွင်းကုန်အစားထိုးလုပ်ငန်းအဖြစ် အကျိုးအမြတ်နည်းသည့်လုပ်ငန်းအပေါ် သင့်လျော်သောကာလအထိ ဝင်ငွေခွန်သက်သာခွင့်တောင်းခံခြင်းကို အကျုံးဝင်ခြင်းမရှိဟု သုံးသပ်ရပါသည်။

- ဥပဒေပုဒ်မ ၁၃ (စ) အရ လုပ်ငန်းမှ ရရှိသည့်အမြတ်ငွေကို တစ်နှစ်အတွင်း ပြန်လည်ရင်းနှီးမြှုပ်နှံပါက ထိုအမြတ်ငွေပေါ်တွင် ဝင်ငွေခွန်ကင်းလွတ်ခွင့် (သို့) သက်သာခွင့်ကို အမှန်တကယ် ပြန်လည်ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အခါ လျှောက်ထားလာပါက ခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃ (ဆ) အရ လုပ်ငန်းသုံးမတည်ပစ္စည်းများ အပေါ် တန်ဖိုးလျော့ငွေကို သတ်မှတ်သည့်နှုန်းအတိုင်း နှစ်တိုး တိုး နှင့်မူလတန်ဖိုးပြည့်မီသည်အထိအမြတ်ငွေမှ နှုတ်ပယ်ခွင့်နှင့် ပတ်သက်၍ လျှောက်ထားလာသည့်အခါ ကော်မရှင်မှ သတ်မှတ်သည့်နှုန်း အတိုင်း ခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ( ၁၃ (ဇ) အရ ကနဦးရင်းနှီးမြှုပ်နှံမှုကာလ အတွင်းဝင်သွင်းလာသည့်စက်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်း များအပေါ်တွင်အကောက်ခွန်နှင့်အခြားပြည်တွင်း အခွန် အကောက်များ ကင်းလွတ်ခွင့်ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃ (ဈ) အရ ကနဦးရင်းနှီးမြှုပ်နှံမှုကာလ ကုန်ဆုံး၍ ပထမ (၃) နှစ်အတွက်ကုန်ထုတ်လုပ်ရန်တင်သွင်းသည့် ကုန်ကြမ်းများ၊ လုပ်ငန်းသုံးပစ္စည်း များအပေါ်တွင်အကောက် ခွန်နှင့်အခြား ပြည်တွင်းအခွန်အကောက်များကင်း လွတ်ခွင့် ပြုသင့်ပါသည်။

- ဥပဒေပုဒ်မ ၁၃ (ည) အရ ထုတ်လုပ်မည့်ပစ္စည်းများ၊ ပြည်ပ သို့တင်ပို့ရောင်းချမှုအပေါ် ကုန်သွယ်လုပ်ငန်းခွန်ကင်းလွတ်ခွင့် မှ ဘဏ္ဍာရေးနှင့်အခွန်ဝန်ကြီးဌာန၏ ၂၁-၅-၉၆ နေ့စွဲ ပါအမိန့်ကြော်ငြာစာအမှတ် ၇၇/၉၆ အရ အကျုံးဝင်ပြီးဖြစ် ပါသည်။



* ကျော် ၁၁-၀-၉၀။

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန
မွေးမြူရေးအစားအစာနှင့်နို့ထွက်ပစ္စည်းလုပ်ငန်း
စီမံကိန်းဌာန



စာအမှတ်၊ ၄၅/စမစ၇/(၈၄၃၇/၉၀)
ရက်စွဲ၊ ၁၉၉၀ ခုနှစ်၊ ဇူလိုင်လ ၁၇ ရက်

အကြောင်းအရာ။ <u>မြန်မာရောင်နီဦး ကုမ္ပဏီလီမိတက်၏ မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ရင်းနှီးမြှုပ်နှံမှုအဆိုပြု တင်ပြချက် ပေးပို့ခြင်း ။</u>

အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ မွေးမြူရေး၊ အစားအစာနှင့် နို့ထွက်ပစ္စည်းလုပ်ငန်း ပိုင် ငါးဆူတောင်ဘက်စုံ မွေးမြူရေးစခန်း ရှိ မြေ(၁၁၃၃.၇၂) ဧကအား ငှါးရမ်း၍ စိုက်ပျိုး မွေးမြူရေးလုပ်ငန်းများ လုပ်ကိုင်လျက်ရှိသော မြန်မာရောင်နီဦး ကုမ္ပဏီလီမိတက်၏ မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန် အဆိုပြုတင်ပြလာပါသဖြင့် မြန်မာရောင်နီဦး ကုမ္ပဏီလီမိတက်၏ တင်ပြချက်အဆိုပြုလွှာ (၃၅) စုံအား ဤစာနှင့်အတူ ပူးတွဲပေးပို့အပ်ပါသည်။

ဦးဆောင်ညွှန်ကြားရေးမှူး (ကိုယ်စား)
(အောင်မင်း၊ ဒုတိယအထွေထွေမန်နေဂျာ)

<u>မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု</u>
<u>ကော်မရှင်ရုံး</u>

မိတ္တူကို-
- ညွှန်ကြားရေးမှူးချုပ်၊ မွေးမြူရေးနှင့်ရေလုပ်ငန်းညွှန်ကြားမှု ဦးစီးဌာန
- ရုံးလက်ခံစာတွဲ
- မျှောစာတွဲ



ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ

မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန

မွေးမြူရေး၊ အစားအစာနှင့်နို့ထွက်ပစ္စည်းလုပ်ငန်း

စာအမှတ်၊ ၄၅/ ဓစ၇/

ရက်စွဲ ၊ ၁၉၉၀ ခုနှစ် လ ၂၄ ရက်

အကြောင်းအရာ။ မြန်မာရောင်နီဦးကုမ္ပဏီလီမိတက်၏မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုအဆိုပြုချက်နှင့်ပတ်သက်၍ရှင်းလင်းပြချက်

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး၊ ဥပဒေဌာနခွဲ၏ ၁၃-၆-၉၀ ရက်နေ့ညှိနှိုင်းတောင်းချက်

၁။ မွေးမြူရေး၊ အစားအစာနှင့်နို့ထွက်ပစ္စည်းလုပ်ငန်း ပိုင်ငါး ဆုတောင်ဘက်ကိုမွေးမြူရေးစခန်းရှိမြေ ၁၁၃၃.၀၂ ဧကအား နှစ်ရှည်ငှားရမ်းဆောင်ရွက်ခွင့်ပြုရန်မြန်မာရောင်နီဦးကုမ္ပဏီလီမိတက်မှအဆိုပြုလျှောက်ထားလာခြင်းနှင့်ပတ်သက်၍မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာနမှ ၆-၅-၉၇ ရက်စွဲပါစာဖြင့်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့တင်ပြခဲ့ရာ ၂၃-၅-၉၇ ရက်နေ့ကပြုလုပ်ခဲ့သောမြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၉/၉၇ ကြိမ်မြောက်အစည်းအဝေးမှသဘောတူခွင့်ပြုခဲ့ပါသည်။ ယင်းကြောင့် မြေငှားရမ်းခြင်းသဘောတူစာချုပ်ကို ၁-၇-၉၇ ရက်နေ့တွင်လက်မှတ်ရေးထိုးချုပ်ဆိုခဲ့ပြီးဖြစ်ပါသည်။ သဘောတူစာချုပ်ပါစည်းကမ်းချက်များအရ မွေးမြူရေး၊ အစားအစာနှင့်နို့ထွက်ပစ္စည်းလုပ်ငန်းအနေဖြင့်မြန်မာရောင်နီဦးကုမ္ပဏီလီမိတက်မှငှားရမ်းခနှင့်ရရန်ပိုင်ခွင့်များ၏လက်ကျန်တန်ဖိုးများကိုအောက်ပါအတိုင်းလက်ခံရရှိပြီးဖြစ်ပါသည် —

(က) ၁-၇-၉၇မှ ၃၁-၆-၉၀ထိ မြေငှားရမ်းခကျပ် ၂၀၃၄၅၅၈/

(ခ) ရပိုင်ခွင့်များ၏လက်ကျန်တန်ဖိုး

(၁) ပထမအရစ်ကျပ် ၂၅.၀ သန်း

(၂) ဒုတိယအရစ်ကျပ် ၁.၀ သန်း (ဒုတိယအရစ်မှကျန်ငွေကျပ် ၄.၀ သန်းအား ၃၁-၇-၉၀ နေ့နောက်ဆုံးထားပေးသွင်းခွင့်ပြုရန်တင်ပြလာပါ၍စာချုပ်ပါစည်းကမ်းချက်များနှင့်အညီ စောချင်စွာပေးသွင်းရန်တပ်မံတောင်းခံထားပါသည်)

၂။ ငါးဆူတောင်ဘက်စုံစိုက်ပျိုးမွေးမြူရေးစခန်းတွင် မူလဆောင်ရွက်ခဲ့သော Myanmar Impex Agro-Livestock Co. Ltd. ကိုမြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏သဘောတူခွင့်ပြုချက်အရစာရင်း ရှင်းလင်းဖျက်သိမ်းရေးဆောင်ရွက်လျက်ရှိရာတိုးတက်မှုအခြေအနေကိုတင်ပြရန်လမ်းညွှန်ချက်အရ မွေးမြူရေး ၊ အစားအစာနှင့်ရေထွက်ပစ္စည်း လုပ်ငန်း၏ ၂၆-၅-၉၇ ရက်စွဲပါအမှာစာဖြင့်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့တင်ပြခဲ့ပါသည်။ ၄င်းတင်ပြချက်အပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၅/၉၇ ကြိမ်မြောက်အစည်းအဝေးက အောက်ပါအတိုင်းဆောင်ရွက်ရန်ဆုံးဖြတ်ခဲ့ပါသည် -

(က) MIAL အား Voluntary Liquidation နည်းလမ်းဖြင့်စာရင်း ရှင်းလင်းဖျက်သိမ်းရန်သဘောတူကြောင်း

(ခ) မြန်မာရောင်နီဦးကုမ္ပဏီလီမိတက်အား ငှါးရမ်းခွင့်ပြုရန် သဘောတူကြောင်း

(ဂ) လုပ်ငန်းစီမံကိန်းအသစ်အနေဖြင့် MIC သို့တင်ပြရန်

၃။ အဆိုပါဆုံးဖြတ်ချက်အပေါ်ငါးဆူတောင်ဘက်စုံစိုက်ပျိုးမွေးမြူရေး လုပ်ငန်းကိုလုပ်ငန်းစီမံကိန်းအသစ်အဖြစ်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့တင်ပြရေးအတွက်မြန်မာရောင်နီဦးကုမ္ပဏီလီမိတက်သို့ညှိနှိုင်း ဆောင်ရွက်ခဲ့ရာ ၁၉၉၇ ခုနှစ် ဒီဇင်ဘာလတွင်မှတင်ပြလာသည့်အတွက် မြေငှါး ရမ်းခြင်းသဘောတူစာချုပ်အား နှစ်ဦးနှစ်ဖက်သဘောတူချုပ်ဆိုပြီးသည့်အ တိုင်းတင်ပြရခြင်းဖြစ်ပါကြောင်း ရှင်းလင်းတင်ပြအပ်ပါသည်။

ဦးဆောင်ညွှန်ကြားရေးမှူး (ကိုယ်စား)
(အောင်မင်း ၊ ဒုတိယအထွေထွေမန်နေဂျာ)

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု
ကော်မရှင်ရုံး

မိတ္တူကို -

ညွှန်ကြားရေးမှူးချုပ်၊ မွေးမြူရေးနှင့်ရေလုပ်ငန်းညွှန်ကြား မှုဦးစီးဌာန

ရုံးလက်ခံစာတွဲ ၊ မျှောစာတွဲ

၁၂/၉၈.(ကို)
၃.၇.၉၈

ပူး-တွဲ

# လုပ်ငန်းစီမံကိန်း အဆိုပြုချက်၏ အဓိကအချက်များ

## ( မြန်မာနိုင်ငံသား များ ရင်းနှီး မြှုပ်နှံမှုဥပဒေအရ )

| | | |
|---|---|---|
| ၁ | ကုမ္ပဏီအမည် | - မြန်မာ ရောင်နီဦး ကုမ္ပဏီလီမိတက် (Myanmar Yaung Ni Oo Co., Ltd.) ( ၁၅-၁၀-၉၆ နေ့တွင် မှတ်ပုံတင်ပြီး ) |
| ၂ | လုပ်ငန်း အဆိုပြုသူအမည် | - ဦး တိုချင်း |
| ၃ | အဆိုပြုလုပ်ငန်း အမျိုးအစား | - စိုက်ပျိုး ရေး ၊ တိရစ္ဆာန် မွေးမြူရေးနှင့်ငါး မွေး မြူရေး |
| | တည်နေရာ | - ငါးဆူ တောင်ကျေး ရွာ ၊ လှည်း ကူး မြို့နယ်၊ ရန်ကုန်တိုင်း ။ |
| ၅ | ခုရ.ပေါင်းရင်းနှီး မြှုပ်နှံမှု | - ကျပ် ၉၉.၀၇သန်း( US $ ၀.၅၃ သန်းအပါအဝင်) |
| | - ငွေသား | ကျပ် ၇၈.၄၁သန်း |
| | - စက်ပစ္စည်း | ကျပ် ၃.၁၇သန်း (US $ ၀.၅၃ သန်း ) |
| | - အဆောက်အဦ | ကျပ် ၁၇.၂၄သန်း |
| | - ပရိဘောဂများ | ကျပ် ၁.၄၆သန်း |
| ၆ | မြေအကြောင်း အရာ | |
| | - မြေအကျယ်အဝန်း | - ၁၁၃၃.၈၂ ဧက ( ၄၅၈၈၄၁၁.၈၁ စတုရန်းမီတာ) |
| | - မြေပိုင်ဆိုင်မှု | - မွေး မြူရေး နှင့် ရေလုပ်ငန်းဝန်ကြီး ဌာန ၊ မွေးမြူ ရေး အစားအစာ နှင့် နို့ထွက်ပစ္စည်းလုပ်ငန်းမှ ငှား |
| | - မြေအမျိုး အစား | - နိုင်ငံပိုင် မြေ |
| | - ငှါး ရမ်း မည့်သက်တမ်း | - ကနဦး သက်တမ်း ( ၂၀ ) နှစ်နှင့် နောက်ထပ် (၅)နှစ် (၂) ကြိမ် |
| | - မြေငှါး ခ | - တစ်နှစ်လျှင်ကျပ် ( ၂.၈၃ ) သန်း |
| ၇ | ထုတ်လုပ်မှုနှင့် ရောင်းဈေး နှုန်း ( ပုံမှန်နှစ် ) | ထုတ်လုပ်မှု (ကီလို မက်ထရစ်တန်) / ရောင်း ဈေး နှုန်း (US $ / ကီလို ) |
| | ပြည်ပ ရောင်း | |
| | - သရက်သီး | ၄၂ / ၉ |

သို့ မှတ်

| | ပြည်တွင်း ရောင်း | | ထုတ်လုပ်မှု | ရောင်းဈေးနှုန်း |
|---|---|---|---|---|
| | | (ယူနစ်) | (သောင်းပေါင်း) | (ကျပ်/ယူနစ်) |
| | - သရက်သီး | (လုံး) | ၇၅၀.၂ | ၃၀ |
| | - မာလကာသီး | (လုံး) | ၇၆၆.၁ | ၂၅ |
| | - သဘောသီး | (လုံး) | ၃၁၁.၀ | ၂၅ |
| | - သရက်ပျိုးပင် | (ပင်) | ၅.၁ | ၂၀၀ |
| | - မာလကာပျိုးပင် | (ပင်) | ၂၁.၀ | ၅၁ |
| | - ကြက်သား | (ပိဿာ) | ၁၆၅.၆ | ၂၀၁ |
| | - ဘဲသား | (ပိဿာ) | ၂၁.၁ | ၃၁၁ |
| | - ငါး | (ပိဿာ) | ၅၆၉.၅ | ၁၃၀ |
| ၈ | ပင်ငွေ (ပုံမှန်နှစ်) | | | |
| | - ကျပ်ငွေဖြင့် | | ကျပ် ၁၇၀.၃၉သန်း | |
| | - နိုင်ငံခြားငွေဖြင့် | | US$ ၀.၃၀သန်း | |
| ၉ | အသားတင်အမြတ် (ပုံမှန်နှစ်) | | | |
| | - ကျပ်ငွေဖြင့် | | - ကျပ် ၄၀.၅၁သန်း | |
| | - နိုင်ငံခြားငွေဖြင့် | | - US$ ၀.၃၂သန်း | |
| ၁၀ | နိုင်ငံတော်မှပုံမှန်နှစ်တွင် ရရှိမည့်အကျိုးအမြတ် | | | |
| | - မြေငှားရမ်းခ | | ကျပ် ၂.၀၃သန်း | |
| | - ဝင်ငွေခွန် | | - ကျပ် ၁၆.၇၀သန်း | |
| | | | - US$ ၀.၀၆သန်း | |
| ၁၁ | ဝန်ထမ်းအင်အား (ပြည်တွင်း) | | - ၂၇၅ ဦး | |
| ၁၂ | အခြား | | - စက်ပစ္စည်းများကို စင်ကာပူနိုင်ငံ One M(S) Pte.,Ltd မှ Supplier's Credit Agreement ဖြင့်ဝယ်ယူမည်ဖြစ်ပြီး တစ်နှစ်လျှင်အတိုးနှုန်း (၈) ရာခိုင်နှုန်း ဖြင့်ဆိုင်းငံ့ကာလ (၂) နှစ်နှင့် | |

## မြန်မာရောင်နီဦးကုမ္ပဏီလီမိတက်

နောက်ဆက်တွဲ ဃ - ၄

## သရက်သီးပြည်ပတင်ပို့မှု

| စဉ် | ခုနှစ် | ထုတ်လုပ်မှု | ပြည်တွင်းရောင်း | | | ပြည်ပတင်ပို့မှု | | | စုစုပေါင်းရောင်းရငွေ ကျပ် - သောင်း |
|---|---|---|---|---|---|---|---|---|---|
| | | | လုံးရေ | တန်ဖိုး (ကျပ် - သောင်း) | လုံးရေ | ကီလို | US $ | ညီမျှသည့် ကျပ် -သောင်း | |
| ၁ | ၁၉၉၈ - ၉၉ | ၁၃၉ ၂၀၀ | ၁၂၄၂၀၀ | ၃၇၂၆. ၀၀ | ၁၅၀၀၀ | ၂၅၀၀ | ၂၂၅၀၀ | ၁၃၅. ၀၀ | ၃၈၆၀. ၀၀ |
| ၂ | ၁၉၉၉ - ၂၀၀၀ | ၂၄၃ ၀၀၀ | ၁၈၃ ၀၀၀ | ၅၄၉၀. ၀၀ | ၆၀၀၀၀ | ၁၀၀၀၀ | ၉၀၀၀၀ | ၅၄၀. ၀၀ | ၆၀၃၀. ၀၀ |
| ၃ | ၂၀၀၀ - ၂၀၀၁ | ၃၈၆၉၀၀ | ၂၃၆၉၀၀ | ၇၁၀၇. ၀၀ | ၁၅၀၀၀၀ | ၂၅၀၀၀ | ၂၂၅၀၀၀ | ၁၃၅၀. ၀၀ | ၈၄၅၇. ၀၀ |
| ၄ | ၂၀၀၂ - ၂၀၀၃ | ၅၀၈၄၀၀ | ၃၂၈၄၀၀ | ၉၈၅၂. ၀၀ | ၁၈၀၀၀၀ | ၃၀၀၀၀ | ၂၇၀၀၀၀ | ၁၆၂၀. ၀၀ | ၁၁၄၇၂. ၀၀ |
| ၅ | ၂၀၀၂ - ၂၀၀၃ | ၆၈၉၆၀၀ | ၄၉၇၆၀၀ | ၁၄၉၂၈. ၀၀ | ၁၉၂၀၀၀ | ၃၂၀၀၀ | ၂၈၈၀၀၀ | ၁၇၂၈. ၀၀ | ၁၆၆၅၆. ၀၀ |
| ၆ | ၂၀၀၃ - ၂၀၀၄ | ၈၆၆၈၀၁ | ၆၅၀၈၀၀ | ၁၉၅၂၄. ၀၀ | ၂၁၆၀၀၀ | ၃၆၀၀၀ | ၃၂၄၀၀၀ | ၁၉၄၄. ၀၀ | ၂၁၄၆၈. ၀၀ |
| ၇ | ၂၀၀၄ - ၂၀၀၅ | ၉၂၁၅၅၀ | ၆၉၃၅၅၀ | ၂၀၈၀၆. ၅၀ | ၂၂၈၀၀၀ | ၃၈၀၀၀ | ၃၄၂၀၀၀ | ၂၀၅၂. ၀၀ | ၂၂၈၅၈. ၅၀ |
| ၈ | ၂၀၀၅ - ၂၀၀၆ မှစ၍နှစ်စဉ် | ၁၀၀၂၂၀၀ | ၇၅၀၂၀၃ | ၂၂၅၀၆. ၀၀ | ၂၅၂၀၀၀ | ၄၂၀၀၀ | ၃၇၈၀၀၀ | ၂၂၆၈. ၀၀ | ၂၄၇၇၄. ၀၀ |

နောက်ဆက်တွဲ-င

# မြန်မာရောင်နီဦးကုမ္ပဏီလီမိတက်

## ဝန်ထမ်းလိုအပ်ချက်နှင့်လစာကုန်ကျမှုစရိတ်

| စဉ် | အကြောင်းအရာ | အရေအတွက် | လစာနှုန်း (ကျပ်) | တစ်နှစ်လစာ ကျသင့်ငွေ (ကျပ်ထောင်) |
|---|---|---|---|---|
| ၁ | တိုက်ရိုက်ဝန်ထမ်း စိုက်ပျိုးရေး | | | |
| | ပညာရှင် - မန်နေဂျာ | ၁ | ၂၀၀၀၀ | ၂၄၀.၀ |
| | ပညာရှင် - ကြီးကြပ်ရေးမှူး | ၅ | ၁၀၀၀၀ | ၆၀၀.၀ |
| | လုပ်သားမှူး | ၂၀ | ၅၀၀၀ | ၁၂၀၀.၀ |
| | လုပ်သား | ၂၀၀ | ၂၄၀၀ | ၅၇၆၀.၀ |
| | | ၂၂၆ | | ၇၈၀၀.၀ |
| ၂ | တိုက်ရိုက်ဝန်ထမ်း ငါးမွေးမြူရေး | | | |
| | ပညာရှင်-မန်နေဂျာ | ၁ | ၂၀၀၀၀ | ၂၄၀.၀ |
| | ပညာရှင်-ကြီးကြပ်ရေးမှူး | ၁ | ၁၀၀၀၀ | ၁၂၀.၀ |
| | လုပ်သားမှူး | ၅ | ၅၀၀၀ | ၃၀၀.၀ |
| | လုပ်သား | ၁၅ | ၂၄၀၀ | ၄၃၂.၀ |
| | | ၂၂ | | ၁၀၉၂.၀ |
| ၃ | ကြက်ဘဲမွေးမြူရေး | | | |
| | လုပ်သားမှူး | ၃ | ၅၀၀၀ | ၁၈၀.၀ |
| | လုပ်သား | ၂၄ | ၃၀၀၀ | ၈၆၄.၀ |
| | | ၂၇ | | ၁၀၄၄.၀ |
| | | ၂၇၅ | | ၉၉၃၆ |

နောက်ဆက်တွဲ-စ

## မြန်မာရောင်နီဦးကုမ္ပဏီလီမိတက်

## နှစ်အလိုက်ရင်းနှီးမြှုပ်နှံမှု

(ကျပ်ထောင်ဂဏန်း)

| စဉ် | အကြောင်းအရာ | ပထမနှစ် | ဒုတိယနှစ် | စုစုပေါင်း |
|---|---|---|---|---|
| ၁ | ရရန်ပိုင်ခွင့်များအတွက်ပေးချေခြင်း | ၃၀၀၀၀ | ၁၀၀၀၀ | ၄၀၀၀၀ |
| ၂ | သရက်ပင်စိုက်ပျိုးခြင်း | ၁၈၀၀ | ၃၀၀၀ | ၄၈၀၀ |
| ၃ | မာလကာပင်စိုက်ပျိုးခြင်း | ၂၇၀၀ | ၄၅၀၀ | ၇၂၀၀ |
| ၄ | ငါးမွေးမြူရေးလုပ်ငန်း | ၁၃၂၀၀ | ၁၃၂၀၀ | ၂၆၄၀၀ |
| ၅ | စက်ပစ္စည်းကိရိယာနှင့်ယာဉ်များဝယ်ယူခြင်း | ၁၂၂၄ | ၁၉၅၀ | ၃၁၇၄ |
| ၆ | အဆောက်အဦးများ - ကြက်ရုံ | ၁၅၀၀ | ၁၅၀၀ | ၃၀၀၀ |
| | - ရုံးနှင့်လူနေအိမ်များ | | ၁၄၀၄၀ | ၁၄၀၄၀ |
| ၇ | ရုံးသုံးပရိဘောဂများ | ၄၅၆ | | ၄၅၆ |
| | စုစုပေါင်း | ၅၀၈၈၀ | ၄၈၁၉၀ | ၉၉၀၇၀ |

မှတ်ချက်။ ။ ငါးဆူတောင်ဘက်စုံစိုက်ပျိုးမွေးမြူရေးစခန်းရှိ ရရန်ပိုင်ခွင့်များကို ကျပ်သန်း(၄၀)တန်ဖိုး သင့်ပြီး ငွေသားဖြင့်ပေးချေဝယ်ယူရာခဲ့ရာတွင် အောက်ပါအတိုင်းပါဝင်ခဲ့ပါသည် -

၁။ အဆောက်အအုံများ — ၁၀.၂၀၇

(က) အဆောက်အဦများ — ၅.၆၉၅

(ခ) ရေဆက်သွယ်ခြင်း — ၂.၈၀၈

(ဂ) လျှပ်စစ်မီးဆက်သွယ်ခြင်း — ၀.၂၂၆

(ဃ) လမ်း၊ ဆည်နှင့် တာတမံ — ၁.၄၇၈

၂။ စိုက်ပျိုးပြီးအပင်များ၏ တန်ဖိုး — ၂၉.၇၉၃

၃။ စုစုပေါင်း — ၄၀.၀၀၀

ထပ်မံဆောက်လုပ်မည့် အဆောက်အဦးများစာရင်း

နောက်ဆက်တွဲ စ - ၁

| စဉ် | အမျိုးအမည် | အရွယ်အစား | အမျိုးအစား | အရေအတွက် |
|---|---|---|---|---|
| ၁။ | ရုံးအဆောက်အဦး | ၄၀' × ၃၀' | Semi - pucca | ၁ |
| ၂။ | မန်နေဂျာအိမ် | ၂၄' × ၄၀' | Semi - pucca | ၁ |
| ၃။ | ၂-ခန်းတွဲကြီးကြပ်ရေးမှူးအိမ် | ၄၀' × ၃၀' | Semi - pucca | ၂ |
| ၄။ | သိုလှောင်ရုံ | ၁၀၀' × ၃၀' | Semi - pucca | ၁ |
| ၅။ | သစ်သီးသိုလှောင်ခန်း | ၄၀' × ၃၀' | Semi - pucca | ၁ |
| ၆။ | အလုပ်သမားတန်းလျား | ၂၀' × ၂၄' | ယာယီ | ၁၀ |
| ၇။ | အသားတိုးကြက်ရုံ | ၁၂၀' × ၂၄' | ယာယီ | ၂၀ |

# MYANMAR YAUNG NI OO CO.LTD
## CASH FLOW ANALYSIS

Kyats in Million

| YEAR | CASH OUT FLOW | CASH IN FLOW | | CASH FLOW | DCF | | DCF | |
|---|---|---|---|---|---|---|---|---|
| | | NET PROFIT | DEPRECIATIOIN | | DF 12% | DCF | DF 13% | DCF |
| 1 | 50.880 | (-) 28.403 | 1.619 | -77.664 | 0.893 | -69.354 | 0.885 | -68.733 |
| 2 | 48.190 | (-) 8.291 | 2.192 | -54.289 | 0.797 | -43.268 | 0.783 | -42.508 |
| 3 | | 26.199 | 3.558 | 29.757 | 0.712 | 21.187 | 0.693 | 20.622 |
| 4 | | 25.067 | 3.558 | 28.625 | 0.635 | 18.177 | 0.613 | 17.547 |
| 5 | | 30.633 | 3.558 | 34.191 | 0.567 | 19.386 | 0.543 | 18.566 |
| 6 | | 36.355 | 2.359 | 38.714 | 0.507 | 19.628 | 0.480 | 18.583 |
| 7 | | 37.676 | 1.819 | 39.495 | 0.452 | 17.852 | 0.425 | 16.785 |
| 8 | | 42.426 | 1.339 | 43.765 | 0.404 | 17.681 | 0.376 | 16.456 |
| TOTAL | 99.070 | 161.662 | 20.002 | 82.594 | - | 1.289 | - | -2.682 |

1. RECOUPMENT RERIOD = 7 Years and 8 month.

2. INTERNAL RATE OF RETURN $= 12 + \left\{ 13\text{-}12 \left( \frac{1.289}{1.289 - (-2.682)} \right) \right\}$

$$= 12 + \left( \frac{1.289}{1.289 + 2.682} \right)$$

$$= 12 + \frac{1.289}{3.971}$$

$$= 12 + 0.3$$

$$= 12\%$$

နောက်ဆက်တွဲ(ဇ)

## အခြားအကျိုးအမြတ်များ

(ကျပ်သန်းဂဏန်း)

| | | အမေရိကန်ဒေါ်လာ | ကျပ် | စုစုပေါင်းကျပ် |
|---|---|---|---|---|
| ၁။ | ဝင်ငွေခွန် | ၂၃၉၀၀၀ | ၆၄.၉၁၉ | ၆၆.၃၉၃ |
| ၂။ | ငှားရမ်းခ | | ၂၃.၉၄၃ | ၂၃.၉၄၃ |

# ငှားရမ်းခြင်းသဘောတူစာချုပ်

၁။ ဤစာချုပ်ကို ၁၉၉၇ ခုနှစ်၊ ဇူလိုင် လ၊ ( ၁ ) ရက်နေ့တွင် ဘုတာရုံလမ်း၊ အင်းစိန်မြို့နယ်တွင် တည်ရှိသည့် မွေးမြူရေး၊ အစားအစာနှင့် နို့ထွက်ပစ္စည်းလုပ်ငန်း (နောင်တွင် အငှားချထားသူဟု ခေါ်ဆိုရမည်ဖြစ်ပြီး၊ ယင်းစကားရပ်တွင် အဆိုပါလုပ်ငန်းအား ဆက်ခံသူများ၊ ဥပဒေအရ ခွင့်ပြုထားသည့် လွှဲအပ်ခြင်းခံရသူများ၊ ကိုယ်စားလှယ်များ၊ ပါဝင်သည်)၏ ကိုယ်စား ...................... ဦး ဒေါ်အောင်ဒေါ်အောင်ညွှန်...... က တစ်ဖက်နှင့် အခြားတစ်ဖက်တွင် ပြည်ထောင်စု မြန်မာနိုင်ငံတော်၏ ဥပဒေများအရ ဖွဲ့စည်းတည်ထောင်ပြီး၊ အစုရှယ်ယာများ ကန့်သတ်ထားသည့်အများနှင့် မသက်ဆိုင်သော ကုမ္ပဏီဖြစ်၍ ရန်ကုန်တိုင်း၊ မရမ်းကုန်းမြို့နယ်၊ (၇)မိုင်၊ ပြည်လမ်း၊ ရတနာလမ်းသွယ်၊ အမှတ် ၃၃(ဘီ)တွင် တည်ရှိသော မြန်မာရောင်နီဦး ကုမ္ပဏီလီမိတက် (နောင်တွင်အငှားချထားခြင်းခံရသူဟု ခေါ်ဆိုရမည်ဖြစ်ပြီး၊ ယင်းစကားရပ်တွင် ယင်းကုမ္ပဏီ၏ဆက်ခံသူများ၊ ဥပဒေအရ ခွင့်ပြုထားသည့် လွှဲအပ်ခြင်းခံရသူများ၊ တရားဝင်ကိုယ်စားလှယ်များ၊ ပါဝင်သည်။) ကိုယ်စားလှယ် .............................. ဦး ကြည်ချွန်............... တို့သည် နှစ်ဦးနှစ်ဖက် သဘောတူလက်မှတ်ရေးထိုးချုပ်ဆိုကြပါသည်။ (နောင်တွင် နှစ်ဖက်ပူးတွဲလျက်ကို "စာချုပ်ချုပ်ဆိုသူများ" ဟူ၍လည်းကောင်း၊ တစ်ဖက်စီကို "စာချုပ်ချုပ်ဆိုသူ" ဟူ၍လည်းကောင်း ရည်ညွှန်းရမည်)

(က) အငှားချထားခြင်းခံရသူသည် (အောက်တွင် အဓိပ္ပါယ်ဖော်ပြထားသည့်) မြေနှင့်ရပိုင်ခွင့်များကို အသုံးပြု၍ ငွေကြေးပမာဏ ကျပ် ၁၀၀,၀၀၀,၀၀၀/- (ကျပ်တစ်ရာသန်းတိတိ) ရင်းနှီးမြှုပ်နှံလျက် စိုက်ပျိုးမွေးမြူရေးလုပ်ငန်းများ လုပ်ကိုင်ရန် ဆန္ဒရှိသည်ကတစ်ကြောင်း။

(ခ) "အငှားချထားသူ" ကလည်း မြေနှင့် ရပိုင်ခွင့်များတွင် မိမိတစ်ဦးတည်းသာ လုံးလုံးလျားလျား တရားဝင်သော အကျိုးခံစားခွင့်ရှိကြောင်းကိုလည်းကောင်း၊ ယင်းမြေနှင့် ရပိုင်ခွင့်များကို နောင်တွင်ပါရှိသည့် စည်းကမ်းချက်များဖြင့် "အငှားချထားခြင်းခံရသူ" အား အငှားချထား ရန်လိုလားကြောင်းကိုလည်းကောင်း အခိုင်အမာပြောဆို၍ အာမခံသည်က တစ်ကြောင်း။

(ဂ) "အငှားချထားသူ" နှင့် "အငှားချထားခြင်းခံရသူ" တို့သည် ဤအငှားစာချုပ်ကို ချုပ်ဆိုရန် သဘောတူကြ၍ ပဋိညာဉ်ပြုသည်ကတစ်ကြောင်း။

၂။ ထိုအကြောင်းများကြောင့် နောင်တွင်ပါရှိသည့် စာချုပ်ချုပ်ဆိုသူများ၏ တာဝန်ခံချက်များကို အထောက်အထားပြု၍ ဤစာချုပ်ကို ချုပ်ဆိုသူများသည် အောက်ပါအတိုင်း သဘောတူကြပါသည်-

(က) <u>အဓိပ္ပါယ်ဖော်ပြချက်များ</u>

ဤအငှားစာချုပ်ပါ ကိစ္စအလို့ငှာ အောက်ဖော်ပြပါ စကားလုံးများနှင့် စကားရပ်များသည် ဖော်ပြပါအတိုင်း အဓိပ္ပါယ်သက်ဝင်ရမည်။

ကြည်ချွန်

(၁) မြေ ။ ပူးတွဲပါမြေပုံတွင် ဖော်ပြ၍ ကောက်ကြောင်းမျဉ်းဖြင့် ဖော်ပြသည့်အတိုင်း ရန်ကုန်တိုင်း၊ လှည်းကူးမြို့နယ်၊ ငါးဆူတောင်ကျေးရွာရှိ၊ မြေဧက (၁၁၃၃.၈၂) ကျယ်ဝန်းသော မြေကွက်ကို ဆိုလိုသည်။

(၂) ရပိုင်ခွင့် ။ ဖော်ပြထားသည့် မြေပေါ်တွင် တည်ရှိသော အဆောက်အအုံများ၊ မွေးမြူရေးကန်များ၊ စိုက်ပျိုးပြီးအပင်များ၊ ပျိုးပင်များအစရှိသည်တို့အားလုံးကို ဆိုလိုပါသည်။

(၃) အဆောက်အအုံများ ။ ဖော်ပြပါ မြေပေါ်တွင် တည်ရှိသော ရုံးခန်းအဆောက်အအုံ၊ သိုလှောင်ရုံ၊ လူနေအိမ်စသည့် အဆောက်အအုံ အားလုံးကို ဆိုလိုသည်။

(၄) ဥပဒေများ ။ မြန်မာနိုင်ငံတွင် လက်ရှိကျင့်သုံးနေသော တည်ဆဲအက်ဥပဒေများ၊ နည်းဥပဒေများ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များ၊ လုပ်ထုံးလုပ်နည်းများ စည်းမျဉ်းဥပဒေများကို ဆိုလိုသည်။

(၅) ငှားရမ်းခ ။ အငှားစာချုပ် စာပိုဒ် (၄) (ခ)တွင် ထိုစကားရပ်အတွက် ပေးထားသည့် အဓိပ္ပါယ်သက်ဝင်သည်။

၃။ အငှားချထားခြင်းနှင့် အငှားစာချုပ်၏ သက်တမ်း။

(က) ဤအငှားစာချုပ်၌ သီးသန့်ပါရှိသော ငှားရမ်းခနှင့် ပဋိညာဉ်များကို အထောက်အထားပြု၍ "အငှားချထားသူ" က မြေနှင့် ရပိုင်ခွင့်များကို "အငှားချထားခြင်းခံရသူ" အား အငှားချထားပါသည်။ "အငှားချထားသူ" သည် မြေနှင့် ရပိုင်ခွင့်များပေါ် ကျူးကျော်သူများ၊ တရားမဝင် နေထိုင်သူများ၊ အိမ်ငှားများ၊ ထပ်ဆင့်အိမ်ငှားများ၊ ခွင့်ပြုမိန့်ဖြင့် နေထိုင်သူများကို ဖယ်ရှားပေးခြင်း၊ နေရာချထားပေးခြင်းတို့ကို ဆောင်ရွက်ပေးရမည်။ "အငှားချထားသူ" သည် ထိုသို့ ဖယ်ရှားခြင်း၊ ရွှေ့ပြောင်းခြင်းနှင့် ပြန်လည်နေရာချထားခြင်းများနှင့် စပ်လျဉ်း၍ ပေးဆောင်ရမည့် ကုန်ကျငွေများ၊ စရိတ်များ၊ လျော်ကြေးများကို ကျခံရမည်။ "အငှားချထားသူ" သည် ဤအငှားစာချုပ်ကို နှစ်ဦးနှစ်ဖက် ချုပ်ဆိုသည့်နေ့ရက်မှ (၃)လအတွင်း မြေနှင့် ရပိုင်ခွင့်များကို "အငှားချထားခြင်းခံရသူ" အား လက်ရှိထားပိုင်ခွင့်ကို လက်ရောက်ပေးအပ်ရမည်။

(ခ) အငှားစာချုပ်၏ သက်တမ်းသည် ဤအငှားစာချုပ်ကို နှစ်ဦးနှစ်ဖက် လက်မှတ်ရေးထိုးသည့် နေ့ရက်မှ ကနဦး သက်တမ်းနှစ် (၂၀) "ကနဦးသက်တမ်း" ဖြစ်ရမည်။ ကနဦးသက်တမ်း ကုန်ဆုံးပြီးနောက် ဤအငှားစာချုပ်ကို နှစ်ဦးနှစ်ဖက်သဘောတူညီချက်ဖြင့် (၅)နှစ်(ငါးနှစ်)စီ နောက်ထပ်(၂)ကြိမ်အထိ သက်တမ်းတိုးမြှင့်နိုင်သည်။

၄။ ငွေပေးချေရန် စည်းကမ်းချက်များ။

(က) "အငှားချထားခြင်းခံရသူ" သည် အပိုဒ်(ခ)ပါ ငှားရမ်းခကို စာချုပ်ချုပ်ဆိုသည့်နေ့မှ စ၍ (၆)လတစ်ကြိမ် ကြိုတင်ပေးသော စနစ်ဖြင့် ပေးချေရမည်။ (၆)လတစ်ကြိမ်ကြိုတင်ငွေကို သက်ဆိုင်ရာ (၆)လပတ်၏ ပထမလအတွင်းပေးရမည်။

(ခ) "အငှားချထားခြင်းခံရသူ" သည် ငှားရမ်းခကို အောက်ဖော်ပြပါ နှုန်းထားအတိုင်းပေးချေရမည်။
(၁) မြေငှားရမ်းခ ။ မြေ (၁၁၃၃.၈၂)ဧကအတွက် တစ်နှစ်လျှင် ကျပ် ၂၈၃၄၅၅၀/- (ကျပ်နှစ်ဆယ့်ရှစ်သိန်းသုံးသောင်းလေးထောင်ငါးရာငါးဆယ်တိတိ) နှုန်း ငှားရမ်းခအဖြစ်ပေးရန်။

(ဂ) ငှားရမ်းခကို (၅)နှစ်တစ်ကြိမ်၊ ပြန်လည်စီစစ်နိုင်ခွင့်ရှိရမည်။ ယင်းသို့ပြန်လည်စီစစ်၍ ငှားရမ်းခကို တိုးမြှင့်ခြင်းပြုခဲ့လျှင် ယင်းတိုးမြှင့်သည့် နှုန်းထားသည် နောက်ဆုံးငှားရမ်းခ၏ (၁၅%) ထက်မပိုစေရ။

၅။ ရပိုင်ခွင့်များ၏ လက်ကျန်တန်ဘိုးပေးချေခြင်း။

အငှားချထားခြင်းခံရသူသည် ငါးဆူတောင် ဘက်စုံစိုက်ပျိုးမွေးမြူရေးစခန်းရှိ ရပိုင်ခွင့်နှင့် အဆောက်အအုံများ၏ ငှားရမ်းသည့်နေ့ရှိ တန်ဘိုးသင့် သတ်မှတ်ထားသည့် လက်ကျန်တန်ဘိုးကို အောက်ပါအတိုင်း (၄)ရစ်ခွဲ၍ (၆)လတစ်ကြိမ် ပေးချေရမည်။ ပထမဆုံးရစ် ကျပ်(၂၅.၀)သန်းကို စာချုပ်ချုပ်ဆိုသည့်နေ့တွင် ပေးချေရမည်ဖြစ်ပြီး၊ ကျန်အရစ်များကို (၆)လတစ်ကြိမ်၊ မြေငှားရမ်းခပေးချေသည့်နေ့တွင် မြေငှားရမ်းခနှင့်အတူ တစ်ပေါင်းတည်းပေးသွင်းရမည်။

| | | | |
|---|---|---|---|
| (၁) | ပထမအရစ် | ကျပ် | ၂၅.၀ သန်း |
| (၂) | ဒုတိယအရစ် | ကျပ် | ၅.၀ သန်း |
| (၃) | တတိယအရစ် | ကျပ် | ၅.၀ သန်း |
| (၄) | စတုတ္ထအရစ် | ကျပ် | ၅.၀ သန်း |

၆။ လုပ်ငန်းဆောင်ရွက်မှုနှင့် ဘဏ်အာမခံကြေး။

အငှားချထားခြင်းခံရသူသည် ဤမြေငှားစာချုပ်ကို လက်မှတ်ရေးထိုးသည့်နေ့တွင် လုပ်ငန်းဆောင်ရွက်မှု အာမခံကြေးအဖြစ် စုစုပေါင်းရင်းနှီးမြှုပ်နှံငွေကျပ်သန်း (၁၀၀)၏ (၅)ရာခိုင်နှုန်းနှင့် ညီမျှသော ငွေကျပ် (၅)သန်း(ကျပ်ငါးသန်းတိတိ)ကို "အငှားချထားခြင်းခံရသူ" စာရင်းဖွင့်လှစ်ထားရှိသော ပြည်ထောင်စု မြန်မာနိုင်ငံတော်အစိုးရက အသိအမှတ်ပြုထားသည့် ပြည်တွင်းဘဏ်တစ်ခုခုသို့ ပေးသွင်းထားပြီး ၎င်းဘဏ်၏ဘဏ်အာမခံကို အငှားချထားသူသို့ပေးထားရမည်။ အငှားစာချုပ်ပါလုပ်ငန်းများအတွက် ကျပ် (၂၅)သန်းအထိ ရင်းနှီးမြှုပ်နှံဆောင်ရွက်ပြီးပါက အဆိုပါအာမခံကြေးကျပ်(၅)သန်းကို "အငှားချထားခြင်းခံရသူ" ကမြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏သဘောတူညီချက်ဖြင့် ပြန်လည်ထုတ်ယူခွင့်ရှိ ရမည်။ အကယ်၍ "အငှားချထားခြင်းခံရသူ" အနေဖြင့် ဤအငှားစာချုပ်ပါလုပ်ငန်းများကို ဆောင်ရွက်ခြင်း မပြုဘဲ ပျက်ကွက်ခဲ့လျှင် "အငှားချထားသူ" သည် ဖော်ပြပါဘဏ်အာမခံကြေးငွေကို သိမ်းယူခွင့်ရှိစေရမည်။

၇။ အငှားချထားခြင်းခံရသူ၏ တာဝန်များ။

"အငှားချထားခြင်းခံရသူ" သည် အငှားစာချုပ်၏သက်တမ်းအတွင်း အောက်ဖော်ပြပါများကို ဆောင်ရွက်ရန် သဘောတူညီကြောင်း ပဋိညာဉ်ပြုပါသည်။

(က) ငှားရမ်းခကို အပိုဒ် (၄-က)နှင့်အညီ ပေးချေရမည်။

(ခ) မြေနှင့်ရပိုင်ခွင့်များအပေါ်တွင် စိုက်ပျိုးရေး၊ မွေးမြူရေးနှင့်၎င်းစိုက်ပျိုးမွေးမြူရေးနှင့် ဆက်စပ်သည့် စီးပွားရေးလုပ်ငန်းများကိုသာ လုပ်ကိုင်ခွင့်ရှိပြီး ၎င်းလုပ်ငန်းများနှင့် ဆောင်ရွက်ချက်အားလုံးသည် ဥပဒေနှင့်အညီ ဖြစ်စေရမည်။ စိုက်ပျိုးမွေးမြူရေးနှင့် မသက်ဆိုင်သည့် လုပ်ငန်းများဆောင်ရွက်ခြင်းမပြုရ။

(ဂ) အခွန်အကောက်အားလုံး (မြေခွန်မှအပ စည်ပင်သာယာခွန်အပါအဝင်)နှင့် ပြည်ထောင်စုမြန်မာနိုင်ငံတော်၏ အခွင့်အာဏာပိုင်များက သတ်မှတ်သည့်အလားတူ စည်းကြပ်ခွန်များကိုပါ ပေးဆောင်ရမည်။

(ဃ) နှစ်ဦးနှစ်ဖက်ငှားရမ်းရန် သဘောတူထားသော မြေကွက်အတွင်းရှိ စိုက်ပျိုးမွေးမြူရေး လုပ်ငန်းများနှင့် စိုက်ပျိုးမွေးမြူရေးနှင့် ဆက်စပ်သော အခြားလုပ်ငန်းအဝဝကို ပိုမိုကောင်းမွန်အောင်ပြုလုပ်ခြင်း၊ တိုးချဲ့ရင်းနှီးမြှုပ်နှံခြင်းတို့ကို အငှားချထားသူ၏ ကြိုတင်ညှိနှိုင်းသဘောတူညီချက်ဖြင့် အငှားစာချုပ်လက်မှတ်ရေးထိုးသည့်နေ့မှ (၆)လအတွင်း စတင်ဆောင်ရွက်ရမည်။

(င) ဤအငှားစာချုပ်ပါ မြေယာတစ်ခုလုံးကိုဖြစ်စေ တစ်စိတ်တစ်ဒေသကိုဖြစ်စေ ထပ်ဆင့်အငှားချထားခြင်း၊ လွှဲအပ်ခြင်း (သို့မဟုတ်) လွှဲပြောင်းပေးခြင်းမပြုလုပ်ရ။

(စ) ငါးဆူတောင် ဘက်စုံစိုက်ပျိုးမွေးမြူရေးစခန်း၊ ဧရိယာအတွင်းရှိ ယခုငှားရမ်းမှုတွင် မပါဝင်သော မြေနေရာများသို့လည်းကောင်း၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက် (ခွင့်ပြုချက်အမှတ် ၁၈/၉၆၊ ၂၉-၁၁-၉၆)ဖြင့် မြေ(၅၅)ဧက ငှားရမ်းပြီးမျိုးကြက်ရုံများ တည်ဆောက်၍ မွေးမြူရေးလုပ်ငန်း ဆောင်ရွက်လျှက်ရှိသော (Myanmar C.P Livestock Co., Ltd.) ၏မြေနေရာများသို့လည်းကောင်း သက်ဆိုင်ရာတာဝန်ရှိသူများ၊ အခွင့်အမိန့်ရသူများ သွားလာဝင်ထွက်နိုင်ရေးအတွက် လမ်းကြောင်းကို ကြိုတင်ညှိနှိုင်းသတ်မှတ်ပေးထားပြီး ၎င်းသတ်မှတ်လမ်းကြောင်းအတွင်း အနှောက်အယှက်မရှိစေပဲ၊ ငြိမ်းချမ်းအေးဆေးစွာ ဝင်ထွက်သွားလာခွင့်ပြုရမည်။

(ဆ) ရပိုင်ခွင့်နှင့် အဆောက်အအုံများအတွက် မီးအာမခံနှင့်အခြားလိုအပ်သော အာမခံအမျိုးအစားများကို မြန်မာ့အာမခံတွင် ထားရှိရမည်။

၈။ အငှားချထားသူ၏ တာဝန်များ။

"အငှားချထားခြင်းခံရသူ" က ငှားရမ်းခ ပေးချေခြင်းကိုလည်းကောင်း၊ ဤအငှားစာချုပ်ပါပိုဒ်ပြဋ္ဌာန်းချက်များ၊ စည်းကမ်းချက်များနှင့် သဘောတူညီချက်များအတိုင်း ဆောင်ရွက်၍ လိုက်နာခြင်းကိုလည်းကောင်း၊ အထောက်အထားပြု၍ "အငှားချထားသူ" က "အငှားချထားခြင်းခံရသူ" နှင့် အောက်ဖော်ပြပါအတိုင်း ပဋိညာဉ်ပြုပါသည်။

(က) "အငှားချထားခြင်းခံရသူ" အားဤအငှားစာချုပ်၌ ခွင့်ပြုထားသည့် သက်တမ်းအတွက် မြေနှင့်ရပိုင်ခွင့်များကို "အငှားချထားသူ" ၏သို့မဟုတ် "အငှားချထားသူ" မှတဆင့် သို့မဟုတ် "အငှားချထားသူ" အတွက် ယုံကြည်အပ်နှံမှုမှာ တရားဝင်ဆိုင်ရာဆိုင်ခွင့်တောင်းဆိုသူများ၏ အနှောက်အယှက် မရှိဘဲ ငြိမ်းချမ်းအေးဆေးစွာ လက်ရှိထား၍ ခံစားခွင့်ပြုရမည်။

(ခ) "အငှားချထားခြင်းခံရသူ" က မြေနှင့်ရပိုင်ခွင့်များနှင့် စပ်လျဉ်း၍ စီမံဆောင်ရွက်ရာ၌ အခါအားလျော်စွာ ပေါ်ပေါက်လာသော အခက်အခဲများကို အငှားချထားခြင်းခံရသူ၏ စရိတ်ဖြင့် ကူညီပံ့ပိုး ရမည်။

(ဂ) မြေခွန်ကို ပေးဆောင်ရမည်။

၉။ မြေသို့ ပြန်လည်ဝင်ရောက်နိုင်ခွင့်။

"အငှားချထားခြင်းခံရသူ" က ဤအငှားစာချုပ်ပါ စည်းကမ်းချက်များကို ဆောင်ရွက်ရန် သို့မဟုတ် လိုက်နာရန် ပျက်ကွက်လျှင်လည်းကောင်း၊ ထိုသို့ပျက်ကွက်ကြောင်း "အငှားချထားသူ"က ချအပ်သော နို့တစ်စာပါ ကာလများအတွင်း မဆောင်ရွက်မှု သို့မဟုတ် မလိုက်နာမှုကို ပြင်ဆင်ပေးရန်ပျက်ကွက်လျှင် လည်းကောင်း၊ "အငှားချထားသူ" တွင်အငှားစာချုပ်နှင့်သက်ဆိုင် အကျုံးဝင်သော မြေနှင့် ရပိုင်ခွင့် တစ်ရပ်လုံးပေါ် တွင် ငြိမ်းချမ်းအေးဆေးစွာ ပြန်လည်ဝင်ရောက်၍ လက်ရှိထားပိုင်ခွင့်ရှိရမည်။ ထိုအခါ ဤအငှားစာချုပ်သည် ရပ်စဲ၍ ဆုံးခန်းတိုင် ရောက်ရမည်ဟူ၍ နှစ်ဦးနှစ်ဖက် သဘောတူကြပါသည်။

၁၀။ အာမခံခြင်းနှင့် ကိုယ်စားပြုခြင်း။

(က) အငှားချထားသူသည် မြေကွက်နှင့် အဆောက်အအုံများ၏ ပိုင်ရှင်ဖြစ်၍ ယင်းမြေနှင့် အဆောက်အအုံများကို ဤစာချုပ်ပါ စည်းကမ်းချက်များနှင့်အညီ "အငှားချထားခြင်းခံရသူ" အား ငှားရမ်းရန် သဘောတူပါသည်။

(ခ) "အငှားချထားခြင်းခံရသူ" သည် စာချုပ်ပါ တာဝန်များကို အကောင်အထည်ဖော်ရန် ငွေကြေးအင်အား ပြည့်စုံသူဖြစ်ပါသည်။

(ဂ) ဤစာချုပ်ကို လက်မှတ်ရေးထိုးချုပ်ဆိုသူ နှစ်ဦးနှစ်ဖက်လုံးသည် ဤသဘောတူစာချုပ်ကို ချုပ်ဆိုရန်ဥပဒေအရ လုပ်ပိုင်ခွင့်အာဏာနှင့် ပြည့်စုံသူများဖြစ်ကြောင်းအာမခံကြပါသည်။

၁၁။ <u>မလွန်ဆန်နိုင်သော ဖြစ်ရပ်များ။</u>

(က) စာချုပ်ချုပ်ဆိုသူ တစ်ဖက်က မလွန်ဆန်နိုင်သော ဖြစ်ရပ်များကြောင့် ယင်း၏တာဝန်များကို ဆောင်ရွက်ရန် သို့မဟုတ် ဤသဘောတူစာချုပ်အရ စာချုပ်ချုပ်ဆိုသူ အခြားတစ်ဖက်က တာဝန်ဆောင်ရွက်ခြင်းကို လက်ခံရန် လုံးလုံးလျားလျားဖြစ်စေ၊ တစ်စိတ်တစ်ဒေသဖြစ်စေ၊ ယာယီမစွမ်းဆောင်နိုင်လျှင် ထိခိုက်သည့်ဖက်က အခြားတစ်ဖက်အားအထောက်အထားပြသည့် အကြောင်းအရင်းဖြစ်ပွားပြီးနောက် (၁၄)ရက်အတွင်း မလွန်ဆန်နိုင်သည့်ဖြစ်ရပ်ကို ထိခိုက်သည့် ဘက်၏ တာဝန်များကို အခြားတစ်ဖက်၏ သဘောတူညီချက်ဖြင့် ထိုသို့ဖြစ်ပေါ် သောမစွမ်းနိုင် သည့်ကာလအတွင်း ရပ်ဆိုင်းထားနိုင်သည်။ သို့သော် ထိုမလွန်ဆန်နိုင်သော ဖြစ်ရပ်ကာလ ထက်ပို၍ မကြာမြင့်စေရ။ ထို့ပြင် အဆိုပါအကြောင်းရင်းကို လျှင်မြန်စွာ ဖယ်ရှားရမည်။ မလွန်ဆန်နိုင်သည့် ဖြစ်ရပ်ကြောင့်ဖြစ်ပေါ်သည့် ကြန့်ကြာမှု၊ ပျက်စီးမှု သို့မဟုတ် ဆုံးရှုံးမှုအတွက် စာချုပ်ချုပ်ဆိုသူ မည်သည့်ဘက်တွင်မျှ တာဝန်မရှိစေရ။

(ခ) "မလွန်ဆန်နိုင်သောဖြစ်ရပ်" ဆိုသည်မှာ သဘာဝအတိုင်းကျရောက်သည့် ဘေးဒုက္ခ၊ အစိုးရ၏ တားမြစ်ချက်၊ သပိတ်မှောက်ခြင်း၊ စက်မှုလက်မှုမငြိမ်သက်မှုများ၊ ပေါက်ကွဲမှု၊ မီးလောင်မှု၊ ရေကြီးမှု၊ လျှောင်လှုပ်ခြင်း၊ လေမုန်တိုင်းကျခြင်းနှင့် ဖော်ပြထားသည်များနှင့် အလားတူဖြစ်သည့် အခြားအကြောင်းများကို ဆိုလိုသည်။ ယင်းအကြောင်းများကို မည်သည့်ဘက်ကမျှ မထိန်းချုပ်နိုင်သည့်အပြင်၊ အလေးဂရုနှင့် လုံးလဝီရိယ စိုက်ထုတ်သင့်သလောက် စိုက်ထုတ်သော် လည်း ကျော်လွှားခြင်းငှာ မစွမ်းနိုင်သော ဖြစ်ရပ်များဖြစ်သည်။

၁၂။ <u>စာချုပ်ရပ်စဲခြင်း။</u>

(က) ဤအငှားစာချုပ်ကို အောက်ဖော်ပြပါ အဖြစ်အပျက်များအနက် အဖြစ်အပျက် တစ်ခုခုဖြစ်ပွားမှ သာ ရပ်စဲနိုင်သည် -

(၁) စာချုပ်ချုပ်ဆိုသူ တစ်ဖက်က ဤအငှားစာချုပ်ပါ စည်းကမ်းချက်တစ်ခုခုကို ဖောက်ဖျက်၍ အဆိုပါ ဖောက်ဖျက်မှုကိုပြင်ဆင်ရန် တောင်းဆိုသည့်အခြားတစ်ဖက်မှ စာဖြင့်ရေးသားသော နို့တစ်စာရရှိပြီးနောက် ရက်ပေါင်းခြောက်ဆယ်(၆၀)အတွင်း ယင်းဖောက်ဖျက်မှုကို ပြင်ဆင်ရန် ထိုတစ်ဖက်ကပျက်ကွက်လျှင်၊ မဖောက်ဖျက်သည့်တစ်ဖက်က ရက်ပေါင်းသုံးဆယ်(၃၀)ထက်

မနည်းသော နောက်ထပ်စာဖြင့် ရေးသားသည့် နို့တစ်စာ ချအပ်၍အငှား စာချုပ်ကို ရုပ်စဲနိုင်ခွင့်ရှိရမည်။ သို့မဟုတ်

(၂) စာချုပ်ချုပ်ဆိုသည့် နှစ်ဦးနှစ်ဖက်၏ စာဖြင့်ရေးသားသော သဘောတူညီချက်ဖြင့် ရုပ်စဲနိုင်သည်။ ယင်းသို့ရုပ်စဲရန်အတွက် စာချုပ်ချုပ်ဆိုသူများက ပြည်ထောင်စုမြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်သက်ဆိုင်သော လုပ်ထုံးလုပ်နည်းများပါ ပြဋ္ဌာန်းချက်များနှင့်အညီ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ထံ ဤအငှားစာချုပ်ကို ရုပ်စဲရန်အတွက် လျှောက်လွှာကို ပူးတွဲတင်ပြရမည်။ သို့မဟုတ်

(၃) မလွန်ဆန်နိုင်သော ဖြစ်ရပ်တစ်ခုသည် တစ်နှစ်ထက်ကျော်လွန်၍ ဆက်လက်ဖြစ်ပွားနေ၍ "အငှားချထားခြင်းခံရသူ" ၏ ဒါရိုက်တာများအဖွဲ့၏ အဖွဲ့ဝင်များက ဤအငှားစာချုပ်ကို ရုပ်စဲရန် ဆုံးဖြတ်နိုင်သည်။

(ခ) ဤအငှားစာချုပ် ရုပ်စဲသည့်အခါ "အငှားချထားသူ" သည် "အငှားချထားခြင်းခံရသူ" မှ လုပ်ငန်းကို ချောမောစွာ စာရင်းရှင်းလင်းဖျက်သိမ်းရာ၌ ဥပဒေများနှင့်အညီ လိုအပ်သော အကူအညီပေးရမည်။ ဤအငှားစာချုပ်ကို တစ်ဖက်ဖက်က အလျင်ကျသော ဖောက်ဖျက်ခြင်းနှင့် စပ်လျဉ်း၍မှတပါး၊ မည်သည့်ဘက်ကမှ အခြားတစ်ဖက်ပေါ်တွင် ဆိုင်ရာဆိုင်ခွင့် တောင်းဆိုခြင်း (သို့မဟုတ်) တာဝန်တင်ခြင်းမရှိစေရ။

(ဂ) ဤအငှားစာချုပ် ရုပ်စဲသည့်အခါ "အငှားချထားခြင်းခံရသူ" က (အခိုင်အမာတပ်ဆင်ထားသည့် အရာများအပါအဝင်) မြေ၊ ရပိုင်ခွင့်များနှင့် အဆောက်အအုံများကို အငှားချထားသူအား အခမဲ့လွှဲပြောင်းပေးရမည်။ ထိုသို့ လွှဲပြောင်းပေးရာတွင် ရပိုင်ခွင့်များနှင့် အဆောက်အအုံများ သည် ဆက်လက်သုံးစွဲနိုင်သော အခြေအနေရှိရမည်။

၁၃။ <u>အနုညာတ ခုံတင်၍ အဆုံးအဖြတ်ခံယူခြင်း။</u>

(က) ဤအငှားစာချုပ်မှဖြစ်စေ၊ ဤအငှားစာချုပ်နှင့် စပ်လျဉ်း၍ချုပ်ဆိုသည့် အခြားသဘောတူစာချုပ် သို့မဟုတ် စာချုပ်စာတမ်းမှဖြစ်စေ၊ အငြင်းပွားမှုဖြစ်ပေါ်လာလျှင် စာချုပ်ချုပ်ဆိုသူများသည် အဆိုပါ အငြင်းပွားမှုကို အချင်းချင်းသဘောရိုးဖြင့် ညှိနှိုင်းဆွေးနွေးခြင်းဖြင့် မိတ်ဝတ်မပျက် ဖြေရှင်းကြရမည်။

(ခ) အဆိုပါ အငြင်းပွားမှုကို မိတ်ဝတ်မပျက် မဖြေရှင်းနိုင်လျှင် အနုညာတ ခုံတင်၍အဆုံးအဖြတ် ခံယူ၍ ဖြေရှင်းရမည်။ ယင်းအနုညာတခုံတွင် စာချုပ်ချုပ်ဆိုသူ အသီးသီးကခုံလူကြီးတစ်ဦးစီ ခန့်၍ ယင်းခုံလူကြီးနှစ်ဦးဖြင့် ဖြေရှင်းရမည်။ ယင်းခုံလူကြီးများက သဘောတူညီမှုမရရှိလျှင် အဆိုပါအငြင်းပွားမှုကို ယင်းခုံလူကြီးများက အမည်တင်သွင်းသည့် ဒိုင်လူကြီးထံ လွှဲအပ်ရမည်။ ခုံလူကြီးများ၏သို့မဟုတ် ဒိုင်လူကြီး၏ ဆုံးဖြတ်ချက်သည် စာချုပ်ချုပ်ဆိုသူ နှစ်ဖက်စလုံးပေါ် တွင် အပြီးအပြတ်တည်ရမည်။

(ဂ) အနုညာတခုံတင် အဆုံးအဖြတ် ခံယူသည့်ကိစ္စများသည် ၁၉၄၄ ခုနှစ်၊ အနုညာတအက်ဥပဒေ (၁၉၄၄ ခုနှစ်၊ မြန်မာနိုင်ငံအက်ဥပဒေ အမှတ် ၄) နှင့် ယင်းအက်ဥပဒေ၏တည်ဆဲပြင်ဆင်ချက်နှင့် အဖက်ဖက်အားလုံးတွင် ကိုက်ညီရမည်။ အနုညာတခုံတင်၍ အဆုံးအဖြတ်ခံယူရာနေရာသည် မြန်မာနိုင်ငံ၊ ရန်ကုန်မြို့ဖြစ်ရမည်။ အနုညာတခုံတင်၍ အဆုံးအဖြတ်ခံယူခြင်းဆိုင်ရာ အခကြေးငွေများကို ရှုံးနိမ့်သွားသည့်ဖက်က ကျခံရမည်။

၁၄။ ကျွမ်းကျင်သူများအား ငှားရမ်းခြင်း။

(က) စိုက်ပျိုးရေးလုပ်ငန်းအတွက်ဖြစ်စေ၊ မွေးမြူရေးလုပ်ငန်းအတွက်ဖြစ်စေ၊ အထက်ပါစိုက်ပျိုးမွေးမြူရေးလုပ်ငန်းများနှင့် ဆက်စပ်၍ လုပ်ငန်းတိုးချဲ့ခြင်းများအတွက်ဖြစ်စေ၊ စီမံခန့်ခွဲမှုနှင့်ပက်သက်၍ဖြစ်စေ၊ လိုအပ်လာပါက ပြည်တွင်းပြည်ပမှ ကျွမ်းကျင်သူများကို အငှားချထားခြင်းခံရသူက ငှားရမ်း၍ တာဝန်ပေးအပ်နိုင်သည်။

(ခ) အဆိုပါ ပြည်ပမှ ကျွမ်းကျင်သူများသည် မြန်မာနိုင်ငံတွင် နေထိုင်စဉ်ကာလအတွင်း မြန်မာနိုင်ငံ၏ တည်ဆဲစည်းမျဉ်းဥပဒေများကို လေးစားလိုက်နာရန်နှင့် မြန်မာနိုင်ငံ၏ ပြည်တွင်းရေးကိစ္စများတွင် ဝင်ရောက်စွက်ဖက်ခြင်းမပြုရန် "အငှားချထားခြင်းခံရသူ" က တာဝန်ယူရမည်။

၁၅။ အဆောက်အအုံနှင့် ရပိုင်ခွင့်များပြန်လည်လွှဲပြောင်းခြင်း။

အငှားစာချုပ် သက်တမ်းကုန်ဆုံးပြီးနောက်တွင် အငှားချထားသော မြေ၊ မြေပေါ်ရှိရပိုင်ခွင့်များ အဆောက်အအုံများနှင့် "အငှားချထားခြင်းခံရသူ" မှ ထပ်မံ၍ တိုးချဲ့ရင်းနှီးမြှုပ်နှံမှုများကို "အငှားချထားသူ" သို့ အခမဲ့ပြန်လည်လွှဲပြောင်းပေးရမည်။ ထိုသို့လွှဲပြောင်းပေးရာတွင် ရပိုင်ခွင့်များနှင့် အဆောက်အအုံများသည် ဆက်လက်သုံးစွဲနိုင်သော အခြေအနေရှိရမည်။

၁၆။ ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ခြင်း။

(က) "အငှားချထားခြင်းခံရသူ" သည် မြေနှင့် ရပိုင်ခွင့်များ၏နယ်မြေနှင့် အနီးတစ်ဝိုက်ကို ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ရန်အတွက် တာဝန်ရှိရမည်။

(ခ) "အငှားချထားခြင်းခံရသူ" သည် ပြည်ထောင်စုမြန်မာနိုင်ငံတော်၏ ဥပဒေများအရ ခွင့်ပြုသည့် အဆင့်နှင့် စံအတွင်းလေထုညစ်ညမ်းမှု၊ ရေထုညစ်ညမ်းမှု၊ မြေထုညစ်ညမ်းမှုနှင့် အခြားပတ်ဝန်းကျင် ညစ်ညမ်းလာခြင်းကို ထိန်းချုပ်ရမည်။

၁၇။ ဓာတ်သတ္တုပင်ရင်းအခြေအမြစ်များနှင့် ရှေးဟောင်းပစ္စည်းများ။

ဤအငှားစာချုပ်၏ သက်တမ်းအတွင်း မြေနှင့်ရပိုင်ခွင့်များအပေါ်တွင်ဖြစ်စေ၊ ယင်းတို့မှဖြစ်စေ၊ ဓာတ်သတ္တုပင်ရင်း အခြေအမြစ်များ၊ မြှုပ်နှံထားသည့်ရတနာများအပြင် မမျှော်လင့်ဘဲ တွေ့ရှိရသည့် ရှေးဟောင်းပစ္စည်းများသည် "အငှားချထားသူ" ၏ ပစ္စည်းဖြစ်ရမည့်ပြင်၊ "အငှားချထားသူ" သည် ဆိုခဲ့သည့် ပစ္စည်းများကို သက်ဆိုင်ရာနိုင်ငံတော် အဖွဲ့အစည်းများသို့တင်ပြ၍ မည်သည့်အခါ၌မဆို တူးဖော်နိုင်ခွင့်ရှိရမည်။

၁၈။ စာချုပ်ပြင်ဆင်ခြင်း။

စာချုပ်ချုပ်ဆိုသူနှစ်ဖက်လုံးက စာဖြင့်ရေးသားသည့် အတိအလင်းသဘောတူညီချက်အရသာလျှင် ဤသဘောတူစာချုပ်ကို ပြင်ဆင်ခြင်း၊ ပြောင်းလဲခြင်း၊ ထပ်မံဖြည့်စွက်ခြင်းတို့ကို ပြုလုပ်နိုင်သည်။

၁၉။ ဘာသာစကား။

ဤအငှားစာချုပ်အရ သို့မဟုတ် ဤအငှားစာချုပ်နှင့်အညီ လဲလှယ်သည့် သို့မဟုတ် ချအပ်သည့် စာပေးစာယူများနှင့် နို့တစ်စာများကို မြန်မာဘာသာဖြင့် ပြုလုပ်ရမည်။

၂၀။ စာပေးစာယူအတွက် နေရပ်လိပ်စာ

ဤအငှားစာချုပ်အရ သို့မဟုတ် ဤအငှားစာချုပ်နှင့်အညီ စာပေးစာယူနှင့် နို့တစ်စာအားလုံးကို ဤအငှားစာချုပ်၏ ပထမစာမျက်နှာတွင် ဖော်ပြထားသည့် နေရပ်လိပ်စာ၌ဖြစ်စေ၊ လက်ခံရရှိရမည့် စာချုပ်ချုပ်ဆိုသူက တစ်ဖက်စာချုပ်ချုပ်ဆိုသူအား အခါအားလျော်စွာ စာဖြင့်ရေးသားအကြောင်းကြားထားသည့် အခြားနေရပ်လိပ်စာ၌ဖြစ်စေ၊ လက်ခံရရှိ.....ရမည့် စာချုပ်ချုပ်ဆိုသူထံပေးပို့ရမည်။

၂၁။ ဤအငှားစာချုပ်ကို အထက်တွင် ဖော်ပြထားသည့် ခုနှစ်၊ လနှင့် နေ့ရက်တွင် ပြည်ထောင်စုမြန်မာနိုင်ငံ၊ ရန်ကုန်မြို့၌ ဤစာချုပ်ကို လက်မှတ်ရေးထိုးချုပ်ဆိုကြပါသည်။







မွေးမြူရေး၊ အစားအစာနှင့် နို့ထွက်ပစ္စည်းလုပ်ငန်းကိုယ်စား

မြန်မာရောင်နီဦး ကုမ္ပဏီလီမိတက်ကိုယ်စား

.....(ဒေါက်တာဒေါင်ညွန့်).....
ဦးဆောင်ညွှန်ကြားရေးမှူး
မွေးမြူရေး၊ အစားအစာနှင့်နို့ထွက်ပစ္စည်းလုပ်ငန်း။

ကို ချင်း
.........................................
ဦးဆောင်ညွှန်ကြားရေးမှူး
**U Ko Chin**
Managing Director
Myanmar Yaung Ni Oo Co., Ltd.

အသိသက်သေများ

၁။ .................................................. (signature, dated)

အမည် ..................................................

ရာထူး ..................................................
မွေးမြူရေး၊ အစားအစာနှင့် နို့ထွက်ပစ္စည်းလုပ်ငန်း

နေရပ်လိပ်စာ ..................................................

..................................................

၁။ .................................................. (signature)

အမည် ......ဟောင်ဟောင်ဝင်း......

ရာထူး ..........Director..........
Myanmar Yaung Ni Oo Co., Ltd.

နေရပ်လိပ်စာ ..................................................

..................................................



**FORM VI**

## RETURN OF ALLOTMENTS
## THE MYANMAR COMPANIES ACT.

(See Section 104)

(To be filed with the Registrar within one month after the Allotment is made)

Return of allotment from the made on 26th of Dec , 1997.
on the of 19 of the * MYANMAR YAUNG HI OO CO,LTD

Made pursuant to Section 104(1)

Number of the shares allotted payable in cash ..... 400 shares
" " " " .....

Nominal amount of the shares so allotted ..... K 4,000,000/-
" " " " .....

Amount paid or due and payable on each such share .... K 10,000/- Fully paid up
" " " "

Number of ordinary shares allotted for a consideration other than cash

Nominal amount of the ordinary shares so allotted .... Nil

Amount to be treated as paid on each such share .... Nil

The consideration for which such share have been allotted is as folllows:-

---

NOTE: In making a return of allotments under Section 104(1) the Myanmar Companies Act., it is to be noted that-

1. When a return includes several allotments made on different dates, the actual date of only the first and last of such allotment should be entered at the tip of the front page, and the registration of the return should be effected within one month of the first date.

2. When a return relates to one allotment only, made on one particular date, that date only should be inserted and the spaces for the second date struck out and the word made substituted for the word "From" after the word "allotments" above.

Here insert name of Company.
Distinguish between preference, ordinary, or other description of shares.



THE GOVERNMENT OF THE UNION OF MYANMAR

MINISTRY OF NATIONAL PLANNING AND ECONOMIC DEVELOPMENT

OFFICE OF THE REGISTRAR OF JOINT STOCK COMPANIES REGISTRATION

CERTIFICATE OF REGISTRATION OF DOCUMENTS

No. 1206 of 1996 - 1997

IN THE MATTER OF MYANMAR YAUNG NI OO GEMS COMPANY LIMITED

I do hereby certify that persuant to the Myanmar Companies Act.

1. Memorandum and Articles of association.
2. Declaration of registration of company.
3. Situation of registered office.
4. Certificate of Translation.
5. List of directors.
6. Legal Version.
7. Registration fees for Authorised Capital.

Has/have been this day duly filed and registered in this office.

Dated Yangon, this FIFTEENTH day of OCTOBER

one thousand nine hundred and NINETY SIX

MEMORANDUM OF FEES PAID

Registering

For ..........

Filing

| | | K. | P. |
|---|---|---|---|
| 1. Memorandum of Association<br>2. Articles of Association | Certificate of Translation. | 75 | 00 |
| 3. Notice of situation of registered office and changes therein | | 75 | 00 |
| 4. Return of allotments | Declaration of registration of company. | 75 | 00 |
| 5. Annual list of members and summary of share Capital | | | |
| 6. Balance sheet | Legal Version. | 75 | 00 |
| 7. Special or extraordinary resolution | | | |
| 8. Particulars of mortgages and charges | | | |
| 9. Copy of Register of Directors, Managers, or Managing Agents and changes therein | | 75 | 00 |
| 10. Return of persons authorized to accept services of process and changes therein | | | |
| 11. Registration fees for A/S Capital. | | 15000 | 00 |
| Total : | | 15375 | 00 |

(Theingi Tin Registrar)

FORM XXVI

PARTICULARS OF DIRECTORS, MANAGERS AND MANAGING AGENTS AND OF ANY CHANGES THEREIN

(Myanmar Companies Act, See Section 87)

Name of Company : MYANMAR YAUNG HO OO CO,LTD

Presented by : U Ko Chin(MD)

| | The present Christian name or names of surnames | Nationality, National Registration Card No. | Usual Residential Address | Other Business Occupation | Changes |
|---|---|---|---|---|---|
| 1. | U Ko Chin | Myanmar 12/Ma Ya Ka (Naing)122526 | No.33(B),Yadanar Street , 7 Mile,Mayangon Township, Yangon. | Merchant | Appointed as Managing Director w.e.f 26.12.97 |
| 2. | U Hla Maung | Myanmar 12/Ma Ya Ka (Naing)123041 | No.33(B),Yadanar Street , 7 Mile,Mayangon Township, Yangon. | Merchant | Resigned as First Director w.e.f 26.12.97 |
| 3. | U Maung Maung Gyi | Myanmar 12/Ma Ya Ka (Naing)111025 | No.33(B),Yadanar Street , 7 Mile,Mayangon Township, Yangon. | Merchant | Appointed as Director w.e.f 26.12.97 |
| 4. | U Thein Phwe | Myanmar 13/MaSaNa(Ya Hta)002461 | No.33(B),Yadanar Street , 7 Mile,Mayangon Township, Yangon. | Merchant | Resigned as First Director w.e.f 26.12.97 |
| 5. | U Aike San | Myanmar 13/MaSaNa(Ya Hta)002353 | No.33(B),Yadanar Street, 7 Mile,Mayangon Township, Yangon. | Merchant | Appointed as Director w.e.f 26.12.97 |

NOTE : (1) A complete list of the Directors or Managers or Managing Agents shown as existing in the last particulars.

(2) A note of the changes since the last list should be made in the column for "Changes" by placing against the new Director's name the word "in place of ..................................." and by writing against any former Director's name the word "dead" "resigned" or as the case may be giving the date of change against the entry.

Signature U Ko Chin

Designation ......................

Dated this 26.12.97

FORM XXVI

# PARTICULARS OF DIRECTORS, MANAGERS AND MANAGING AGENTS AND OF ANY CHANGES THEREIN

(Myanmar Companies Act, See Section 87)

Name of Company : MYANMAR YAUNG NI OO CO,LTD

Presented by : U Ko Chin(MD)

| | The present Christian name or names of surnames | Nationality, National Registration Card No. | Usual Residential Address | Other Business Occupation | Changes |
|---|---|---|---|---|---|
| 6. | Daw Yin Yin | Myanmar 12/Ma Ya Ka (Naing)123040 | No.33(B),Yadanar Street, 7 Mile,Mayangon Township, Yangon. | Merchant | Resigned as First Directorw,e.f 26.12.97 |
| 7. | Daw Kyar Yin | Myanmar 12/Ma Ya Ka (HtaYa)000114 | No.33(B),Yadanar Street, 7 Mile,Mayangon Township, Yangon. | Merchant | Appointed as Director w.e.f 26.12.97 |
| 8. | Daw Kyi Myint | Myanmar 13/Ta Kha La (Ya [illegible])000147 | No.33(B),Yadanar Street, 7 Mile,Mayangon Township, Yangon. | Merchant | Resigned as First Director w.e.f 26.12.97 |

NOTE : (1) A complete list of the Directors or Managers or Managing Agents shown as existing in the last particulars.

(2) A note of the changes since the last list should be made in the column for "Changes" by placing against the new Director's name the word "in place of ......................................" and by writing against any former Director's name the word "dead" "resigned" or as the case may be giving the date of change against the entry.

Signature ............................

Designation U Ko Chin

Dated this............ 26.12.97



ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန

# ကုမ္ပဏီမှတ်ပုံတင်လက်မှတ်

အမှတ် ၁၂၀၅ /၁၉၉၆ - ၁၉၉၇

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေအရ ... မြန်မာ ရောင်နီဦး ကုမ္ပဏီ လီမိတက် ... အား ပေးရန်တာဝန်ကန့်သတ်ထားသော လီမိတက် ကုမ္ပဏီအဖြစ် ၁၉၉၆ ခုနှစ်၊ အောက်တိုဘာ လ ၁၅ ရက်နေ့တွင်မှတ်ပုံတင်ခွင့်ပြုလိုက်သည်။

(သိင်္ဂီတင်)
ကုမ္ပဏီများမှတ်ပုံတင်အရာရှိ
ကုမ္ပဏီများမှတ်ပုံတင်ရုံး

THE GOVERNMENT OF THE UNION OF MYANMAR
MINISTRY OF NATIONAL PLANNING AND
ECONOMIC DEVELOPMENT

# CERTIFICATE OF INCORPORATION

**No.** ......1205...... **of 1996 - 1997**

*I hereby certify that* MYANMAR YAUNG NI OO COMPANY LIMITED ... *is this day incorporated under the Myanmar Companies Act and that the company is Limited.*

*Given under my hand at Yangon this* FIFTEENTH *day of* OCTOBER *one thousand nine hundred and* NINETY SIX

( THEINGI TIN )
**Registrar of Joint Stock Companies**
**Companies Registration Office**



# One M (S) Pte Ltd

3 Bukit Batok Street 22
Singapore 2365
Tel:(065)5666127
Fax:(065)5666281

SUPPLIERS CREDIT AGREEMENT
BETWEEN
MYANMAR YOUNG NI OO CO:LTD
AND
ONE M (S) PTE LTD

THIS AGREEMENT (together with all annexures or appendices attached hereto and forming an integral part thereof hereinafter referred to as Agreement) made and entered into and delivered at Yangon, the Union of Myanmar on the day of Nineteen Hundred and Ninety Eight by and between, MYANMAR YOUNG NI OO COMPANY LIMITED a limited company duly organized and existing under the laws of the Union of Myanmar having its registered office 33/B Yadanar Lane, 7 Mile. Mayangone Township , Yangon , Myanmar hereinafter refer to as Party "A"( Which expression shall unless repugnant to the context or the meaning thereof., bedeemed to include its successors legal representatives and permitted assigns ) represented for the purpose of this Agreement by U KO CHIN, Managing Director of the one Part.

and

ONE M(S) PTE LTD, a company incorporated under the laws of Singapore having its registered office presently, located at 3 Bukit Batok Street 22 Singapore 2365 (hereinafter refer to as Party "B" which expression shall unless repugnant to the context or the meaning thereof be deemed to its successors, legal representatives and permitted assigns ) represented for the purpose of the Agreement by AUTHORISED SIGNATORY, of the other part.

1.OBJECTIVES

Party "A" shall buy and Party "B" shall supply capital goods and materials for use by "Party(A) for setting up integrated agriculture and related industries. NOW THEREFORE IT IS HEREBY AGREE for and in consideration of premises and mutual convenants herein contained both parties agree as follows:-

2. REPRESENTATIONS AND WARRANTY

2.1 Each of the parties represents and warrants to the other that it is a legal person duly authorized under relevant laws and capable of entering into and performing this AGREEMENT which constitutes its legal and enforceable obligation.

3. CONDITION PRECEDENT

This Agreement is conditional upon receipt of all necessary and requisite approval for its performance and implementation from all relevant Government authorities in the Union of Myanmar.

4 SCOPE OF THE AGREEMENT

Supplies of machinery, equipment as par list enclosed herein this agreement as ANNEXURE I, herein after referred to as "the Goods"

5. PAYMENT TERMS FOR SUPPLIERS CREDIT.

PRINCIPAL USD 529000

INTEREST 8% p.a.

GRACE PERIOD = TWO YEARS FROM DATE OF FINAL SHIPMENT

REPAYMENT = WITHIN THREE 3 YEARS

| Year | Loan Drawn | Repayment | Outstanding | Interest |
|---|---|---|---|---|
| | | (Yr.END) | (Yr.END) | 8% |
| 1. | 204,000,00 | | 204,000,00 | 16320,00 |
| 2. | 325,000,00 | | 529000,00 | 42320,00 |
| 3. | | 176,333,33 | 352,666,67 | 42320,00 |
| 4. | | 176,333,33 | 176,333,34 | 28213,33 |
| 5. | | 176,333,34 | | 14106.67 |
| Total | 529,000,00 | 529,000,00 | | 14328,00 |

6.EFFECTIVENESS

This Agreement shall come into force and become effective on the date of signing by both parties.

7.GOVERNING LAW

This Agreement shall be construed, governed and interpreted according to the laws of the Union of Myanmar.

8. GUARANTEE

The machines / equipment covered by this agreement are guaranteed undernormal use and service for a period of 18 months from the date of shipment or 12 months from the date of commissioning whichever is earlier.This guarantee provides cover against manufacturer's defects in design, material and workmanship. Further more, necessary spare parts can be available from ONE M (S) PTE LTd.the manufacturer for next 10 years.

ARBITRATION

1. If any dispute arises over the interpretation of implementation of this Agreement such dispute shall be settled amicably between both parties through mutual discussion.Disputes arising between the party that cannot be settled amicably as mentioned above shall be settled in the Union Of Myanmar by arbitration , through the two arbitrators appointed by and each representing one of the two parties. Should the arbitrators fail to reach an agreement the dispute shall be referred to an Umpire nominated by the arbitrators . The arbitration proceeding shall in all respect conform to the Arbitration Act,1944 (Myanmar Act IV of 1944) or any subsisting statutory modification thereof. The venue of arbitration shall beYangon,Myanmar.The Arbitration Fees shall be borne by the party against whom the

10. FORCE MAJEURE.

(1) If either party is temporarily rendered unable wholly or in part,by Force Majeure to perform his duties or accept performance by the other party under this Agreement,It is agreed that the effected party give notice to the other party within 14 days after the occurrence of the cause relied upon giving particulars in writing of such Force Majeure.The duties of such party as are effected by such Force Majeure shall with the approval of the other party be suspended during the continuance of the disability so caused,but for no longer period and such cause shall as far as possible be removed with all reasonable despatch.Nether party shall be responsible for delay caused by Force Majeure.
(2) The term "Force Majeure" as employed herein shall mean Act of God,Restraint of a Government, Strikes,Lockouts, Industrial Disturbances, War, Blockades, Insurrection, Riots, Epidemics, Civil Disturbances , Explosions, Fires, Earthquake, Storms, Lightings and any other causes similar to the exercise of due care and deligence either party is unable to overcome.

11.RENEGOTIATION

In the event that any situation or condition due to circumstances not evisaged in the Agreement and warrants amendments to the agreement,the parties shall made the necessary negotiation.

12.MODIFICATION

This Agreement shall not be annulled, amended or modified in respect except by the mutual consent in writing of the parties.

13.GENERAL

(1) All modifications of amendments to this -Agreement or extension there of must be made in writing.
(2) The parties hereto agree to abide by the laws , rules , regulations,procedures and directives of the Union of Myanmar.

IN WITNESS WHEREOF THE PARTIES hereto have caused to this Suppliers Credit Agreement be executed according to the terms and conditions set forth on the date of the above written.

Signed,Sealed and Delivered by, hereto have

For and on behalf of
ONE M (S) PTE LTD

For and on behalf of
MYANMAR YOUNG NI OO CO LTD.

AUTHORISED SIGNATORY

U KO CHIN
MANAGING DIRECTOR

Appendix 'A'

# Myanma Yaung Ni Oo Co. Ltd

| No. | | DESCRIPTION | PRICE US $ | QTY | VALUE US $ |
|---|---|---|---|---|---|
| A | | **MACHINERIES** | | | |
| | 1 | Excavator ( Komatsu ) | 160000 | 1 | 160000 |
| | 2 | Tractor ( 15 to 20 HP ) | 1000 | 24 | 24000 |
| | 3 | Multipurpuse Tractor ( 50 -85 HP ) with Plough, harrow, slasher, seeder, augur and Trailor | 10000 | 1 | 10000 |
| | 4 | 25 kva Diesel Generator | 10000 | 1 | 10000 |
| | | **Sub total** | | | 204000 |
| B | | **VEHICLE** | | | |
| | 1 | Truck car 2 ton & up | 10000 | 10 | 100000 |
| | 2 | Saloon Car | 20000 | 5 | 100000 |
| | 3 | Pickup 1 ton 4 × 4 Diesel 2.8 | 15000 | 5 | 75000 |
| | 4 | Mini Van ( 12 to 16 Seater ) Diesel 2.4 | 10000 | 5 | 50000 |
| | | **Sub total** | | | 325000 |
| | | | | | |
| | | **Grand Total** | | | 529000 |